**အမှာစကား**

ဤ'ယတိဘေဒ' (ခေါ်) ' မြန်မာစာရေးနည်း ' စာစောင်၌ မြန်မာမှု, မြန်မာဟန်, မြန်မာဝေါဟာရ ဖြင့်ရေးသား ဖော်ပြလို၍ 'ကွက်လပ် ပုဒ်သေး(တစ်ချောင်းပုဒ်), ပုဒ်ကြီး(နှစ်ချောင်းပုဒ်၊ ပုဒ်မ), ပုဒ်ကန့်' စသည်မြန်မာမှု, မြန်မာဟန်, မြန်မာအမည်များကိုသာ ပဓာနပြုကာသုံးနှုန်း သွားမည်းဖြင်ကြောင်း၊ အင်္ဂလိပ်ဝေါဟာရဖြင့် ခေါ်ဝေါ်သုံးနှုန်းထား သော'စပေ့(စ်), ဖူး(လ်)စတော့(ပ်), ကော်မာ' စသော အမည်များကို သုံးစွဲမှုမပြုဘဲ တတ်နိုင်သမျှရှောင်လွဲထားခဲ့မည် ဖြစ်ကြောင်း-မှာကြားသိစေအပ်ပါသည်။ ။

**ယတိဘေဒ**

**ခေါ်**

**မြန်မာစာရေးနည်း**

နမော တဿ ဘဂဝတော အရဟတော

သမ္မာသမ္ဗုဒ္ဓဿ။

## မြန်မာစာရေးနည်း အကျဉ်းမှတ်ဖွယ်
## သံခိပ် နိယံ

### (၁) ကွက်လပ် ( )

၁။ ဝိဘတ်တစ်လုံး၊ ဆုံးခဲ့တုံမှတ်၊ ပုဒ်နောက်ရပ်၊ 'ကွက်လပ်' ခြားရမည်။

### (၂) ပုဒ်သေး ( ၊ )

၂။ ဝါကျငယ်ပင်၊ ဆုံးခဲ့လျှင်၊ အစဉ် 'ပုဒ်သေး' ချရမည်။

၃။ အမည်ဂုဏ်ပုဒ်၊ ယှဉ်တွဲထုတ်က၊ ဂုဏ်ပုဒ် ရှေ့တွင်၊ ' ပုဒ်သေး' ဝင်၊ အစဉ်ထားရမည်။

၄။ နေ့စွဲ နောက်ရပ်၊ စာအမှတ် နောက်တွင်၊ 'ပုဒ်သေး' ဝင်၊ အစဉ်ထားရမည်။

၅။ ဂါထာဗန္ဓ၊ ပ, နှင့် တ, တို့၊ ပါဒအဆုံးတွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၆။ ကဗျာစီမှု၊ ရတု စ,စွာ၊ ပါဒအဆုံးတွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၇။ သံပေါက် ရှည် တို၊ လက်ာကို၌၊ ထိုနည်းတိုင်းပင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၈။ သံပေါက်ရေးရာ၊ ရှေးနှစ်ပါဒတွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၉။ ရှစ်လုံးဘွဲ့ထုံး၊ ရှစ်လုံးဆုံးက၊ သုံးပါးဒတွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၁၀။ ဒွေးချိုး, တြိချိုး၊ လေးချိုးကဗျာ၊ ရေးကာစီကြ၊ ချိုးရှေ့မှလျှင်၊ ပါဒနောက်တွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

၁၁။ တေးထပ်မျိုးမှန်၊ သုံးကဏ္ဍဝယ်၊ ရှေ့ပုဒ်သွယ်၌၊ မှတ်ဖွယ်'ပုဒ်သေး' ချရမည်။

၁၂။ စာမျက်နှာများ၊ ပိုဒ်ရေများကို၊ ညွှန်ကြားရာတွင်၊ များခဲ့လျှင်၊ ကြားတွင်-'ပုဒ်သေး' ချရမည်။

၁၃။ သို့မဟုတ်ရှေ့တွင်၊ 'ပုဒ်သေး' ဝင်၊ အစဉ်ချရမည်။

၁၄။ အနက်နောက်တွင် 'ပုဒ်သေး'ဝင်၊ အစဉ်ချရမည်။

### (၃) ပုဒ်ကြီး၊ ပုဒ်မ ( ။ )

၁၅။ စုပေါင်း ဝါကျ၊ ရေးခဲ့ကြရာ၊ နောက်ဆုံးမှာ၊ ချပါ'ပုဒ်ကြီး' တည်း။

၁၆။ တစ်ဝါကျတည်း၊ ပြီးဆုံးခဲ့ရာ၊ ထိုအခါ၊ ချပါ 'ပုဒ်ကြီး'တည်း။

၁၇။ အပိုဒ် နံပါတ်၊ နောက်ရပ်တွင်မှာ၊ ချပါ 'ပုဒ်ကြီး'တည်း။

၁၈။ အမှတ်စဉ်ကို၊ ပြဆို နံပါတ်၊ ထိုနောက်ရပ်၊ ချအပ်'ပုဒ်ကြီး'တည်း။

၁၉။ သင်္ချာနောက်မှာ၊ ပြသည့်သင်္ချေ၊ နောင်၌ပေ၊ ချလေ'ပုဒ်ကြီး'တည်း။

၂၀။ ဂါထာဗန္ဓ၊ ဒု, နှင့် စ,ပင်၊ အဆုံးတွင်၊ ချချင် 'ပုဒ်ကြီး'တည်း။
၂၁။ ကဗျာစီမှု၊ ရတုစ, စွာ၊ ပါဒကုန်သုဉ်း၊ အပိုဒ်ဆုံး၊ သုံးလေ 'ပုဒ်ကြီး'တည်း။
၂၂။ သံပေါက်တိုရှည် (ရှည်)၊ ဆုံးတုံပေ၊ သုံးလေ 'ပုဒ်ကြီး'တည်း။
၂၃။ ကဗျာရှစ်လုံး၊ ဖွဲ့စီကုံး၊ ပြီးဆုံး 'ပုဒ်ကြီး'တည်း။
၂၄။ ဒွေးချိုး၊ တြိချိုး၊ လေးချိုးရေးထုံး၊ ချိုးပုဒ်ဆုံး၊ စွဲသုံး 'ပုဒ်ကြီး'တည်း။
၂၅။ တေးထပ်မျိုးမှန်၊ ကဏ္ဍသုံးခု၊ ဆုံးတုံမှု၊ သုံးပြု'ပုဒ်ကြီး'တည်း။
၂၆။ မှတ်, ညွှန်း ကြောင်းရာ၊ အမှာ, ခြွင်းချက်၊ ပြလျက်နောက်တွင်၊ 'ပုဒ်ကြီး'ပင်၊ အစဉ်နှစ်ချက်တည်း။
၂၇။ ခေါင်းစီး, ထိပ်စီး၊ ရေးပြီးဆုံးရာ၊ ချပါ 'ပုဒ်သေး, ပုဒ်ကြီး'တည်း။

## (၄) တုံးတို ( - )

၂၈။ ရှေ့နောက် တည်ငြား၊ ပုဒ်နှစ်ပါးမှ၊ စကားလွှဲဆို၊ မရောလို၊ 'တုံးတို'ချလေမြဲ။
၂၉။ ရှေ့နောက်နှစ်လီ၊ မတူညီ၊ လယ်ဆီ 'တုံးတို' ချလေမြဲ။
၃၀။ ဂဏန်းရှေ့သွား၊ စာနောက် ထား၍၊ ရေးသားတုံမြောက်၊ ဂဏန်းနောက်၊ မဖောက် 'တုံးတို' ချလေမြဲ။
၃၁။ အနက်ပေးရာ၊ ပါဠိနောက်တွင်၊ 'တုံးတို'ပင်၊ အစဉ်ချစမြဲ။
၃၂။ ဝေါဟာ မကုန်၊ စာကြောင်းကုန်၊ တစ်ဖုံ 'တုံးတို' ချစမြဲ။
၃၃။ မိတ္တူပို့ရာ၊ ဖြန့်ဝေရာ၊ ရှေ့မှာ'တုံးတို' ချစမြဲ။
၃၄။ မိတ္တူဖြန့်ဝေ၊ ပုဒ်နောင်ပေ၊ ချလေ'တုံးရှည်'သာ။
၃၅။ သချ်ေသရုပ်၊ ရေးစီထုတ်၊ သရုပ်ရှေ့မှာ၊ 'တုံးရှည်'သာ။
၃၆။ အဓိပ္ပါယ်ကို၊ ပြန်ဆိုရာဝယ်၊ အဓိပ္ပါယ် နောက်မှာ၊ 'တုံးရှည်'သာ။
၃၇။ ပမာ, ပမေ၊ ဆင်လေတန်ဆာ၊ ရေးသောခါတွင်၊ ဥပမာနောက်မှာ၊ 'တုံးရှည်'သာ။
၃၈။ ဝါကျဆုံးလျက်၊ ဆက်ရန်စကား၊ ရှိတုံငြား၊ ချထားမှန်စွာ၊ 'တုံးရှည်'သာ။

## ၆။ အောက်မျဉ်း ( ____ )

၃၉။ ထူးသတိပြု၊ ကြည့်ရှုစေချင်၊ စာပိုဒ်တွင်၊ ထင်ထင် 'အောက်မျဉ်း' ဆွဲ။

## (၇) ပုဒ်ကန့် ( , )

၄၀။ သရုပ်သချ်ေ၊ ရေတွက်လေရာ၊ ထိုအခါ ချပါ 'ပုဒ်ကန့်' တည်း။
၄၁။ သချ်ာကိန်းများ၊ သုံးလိုငြားက၊ ငါးလုံးတစ်ဖြာ၊ သုံးလုံးမှာ၊ ထားပါ 'ပုဒ်ကန့်' တည်း။
၄၂။ ထက်အောက်စဉ်ခါ၊ ကိန်းသချ်ာကို၊ ဆုတ်ခါမြှင့်တင်၊ ရေးလိုလျှင်၊ ဝင်လေ 'ပုဒ်ကန့်' တည်း။
၄၃။ မျိုးတူမည်ကွဲ၊ တစ်ကြောင်းတည်း၌၊ တွဲစပ်ရေးလျှင်၊ ဝင်လေ 'ပုဒ်ကန့်' တည်း။

## (၈) မီးပြကြီး ( " " )

၄၄။ ပြောဟန်, ဆိုဟန်၊ ပြလိုပြန်၊ ထည့်ရန် 'မီးပြကြီး'။
၄၅။ အကြံဖြစ်ဟန်၊ ရေးလိုပြန်၊ ထည့်ရန် 'မီးပြကြီး'။

## (၉) မီးပြကလေး ( ' ' )

၄၆။ တစ်ဆင့်ပြောဟန်၊ ကြံစည်ဟန်ကို၊ ရေးရန် ကြုံက၊ 'မီးပြကြီး' အတွင်း၊ 'မီးပြကလေး' ကိုသွင်း။

## (၁၀) လက်သည်းကွင်း ( )

၄၇။ ရှေ့ပုဒ်နှင့်မူ၊ သဘောတူ၊ ထည့်ယူ 'လက်သည်းကွင်း'။
၄၈။ သချ်ာနှင့်စာ၊ တူပြရာ၊ သချ်ာ 'လက်သည်းကွင်း '။
၄၉။ ကိန်းဂဏန်းမှာ၊ သချ်ာနှင့် စာ၊ နှစ်ဖြာ ရေးလျှင်၊ စာတွင် 'လက်သည်းကွင်း'။
၅၀။ ပိုဒ်ခွဲ က,ခ၊ ရေးသုံးက၊ ထည့်ကြ 'လက်သည်းကွင်း'။
၅၁။ ဇယားကွက်ထား၊ အမှတ်များ၊ ရေးသား 'လက်သည်းကွင်း'။

## (၁၁) တွန့်ကွင်း { }

၅၂။ မြန်မာစာလုံး၊ 'တွန့်ကွင်း' သုံး၊ လုံးလုံး မရှိပါ။

## (၁၂) ထောင့်ကွင်း [ ]

၅၃။ ရည်ညွှန်း, မှတ်ချက်၊ ရှင်းလင်းချက်နှင့်၊ ခြွင်းချက်တို့မှာ 'ထောင့်ကွင်း'သာ။

၅၄။ သတိပြုစရာ၊ အမှာစကား၊ ရေးစီးသား၊ ထည့်ငြား 'ထောင့်ကွင်း'သာ။

## (၁၃) တစ်ဘက်ကွင်းရှည်-

၅၅။ အရေးကြီးလာ၊ ကြောင်းခြင်းကို၊ ပေါင်းကာစုကြ၊ 'တစ်ဘက်ကွင်းရှည်' ကိုပြ။

၅၆။ စကားပေါ်ရာ၊ များတုံပါလည်း၊ ဓိပ္ပါ, အတ္ထ၊ တစ်ခုရ၊ 'တစ်ဘက်ကွင်းရှည်' ပြ။

## (၁၄) ခရေပွင့် ( * )

၅၇။ အောက်ခြေမှတ်စု၊ ညွှန်းပြမှု၊ ရေးပြု 'ခရေပွင့်'။

## (၁၅) မျဉ်းစောင်း ( / )

၅၈။ သို့မဟုတ် ကို၊ ခြုံးပြလို၊ သုံးလို 'မျဉ်းစောင်း' သာ။

## (၁၆) အမေးလက္ခဏာ ( ? )

၅၉။ အမေးစာသား၊ ရေးစီငြား၊ ပြထား 'အမေးလက္ခဏာ' တည်း။

## (၁၇) အာမေဋိတ် ( ! )

၆၀။ ကြောက်ခြင်းစာသား၊ အကြောင်းများကြောင့်၊ စကားပြောဟန်၊ ရေးလိုပြန်၊ ထားရန် 'အာမေဋိတ်' လက္ခဏာတည်း။

## (၁၈) ချန်ကွက် (-----)

၆၁။ တမင်ချန်လျက်၊ အညွှန်းဆက်၊ 'ချန်ကွက်'ကိုသာ သုံးသတည်း။

## (၁၉) မြုပ်ကွက် (---)

၆၂။ ကြွင်းကျန်စာမှတ်၊ နည်းတုံလတ်၊ ချအပ် 'မြုပ်ကွက်'တည်း။

## (၂၀) မြုပ်ကွက်များ (-------)

၆၃။ ကြွင်းကျန်စာမှတ်၊ များတုံလတ်၊ ချအပ် 'မြုပ်ကွက်များ' သာတည်း။

**မြန်မာစာရေးနည်း အကျဉ်းမှတ်ဖွယ်**
**သံခိပ်နိယံ ပြီးပြီ။**

--------

# ယတိဘေဒ
## ခေါ်
## မြန်မာစာရေးနည်း

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ**

ဇယတု သဗ္ဗမင်္ဂလံ

### သံဃမဟာနာယက နှင့် မြန်မာစာ

ပြည်ထောင်စု မြန်မာနိုင်ငံတော် သံဃမဟာနာယကအဖွဲ့က ပရိယတ္တိပညာရေး စီမံကိန်းအရ စနစ်သစ်ပါဠိပထမပြန် စာမေးပွဲကြီးတွင်-

၁။ ကိုယ်ကျင့်တရား ပိုမိုကောင်းမွန်စေခြင်း

၂။ ပိဋကတ်ကျမ်းဂန် နှံ့စပ်စေခြင်း

၃။ ပါဠိဘာသာ တတ်မြောက်ကျွမ်းကျင်စေခြင်း

၄။ မြန်မာစာပေ အရေးအသား တော်စေခြင်း

ဟူသော ရည်ရွယ်ချက်ဖြင့် " ပရိယတ္တိ မူလေးချက်" တို့ကို ချမှတ် ရေးဆွဲခဲ့ကြပေသည်။

ယင်းလေးချက်တို့တွင် ယခုပြောလို့ ရေးလိုသည်မှာ "မြန်မာစာပေ အရေးအသားတော်စေခြင်း" အတွက်ပင်ဖြစ်ပေသည်။

မြန်မာစာပေ အရေးအသား တော်စေလို၍လည်း မူလတန်းမှစ၍ အတန်းတိုင်း အတန်းတိုင်းတို့တွင် 'မြန်မာစာဘာသာ'ဟု ဘာသာရပ်တစ်ခု ပြဋ္ဌာန်းထားခဲ့ပေသည်။

### ပြဋ္ဌာန်းခဲ့ခြင်း၏ ဦးတည်ရည်ရွယ်ချက်

ဤမြန်မာစာဘာသာတွင်-

၁။ လင်္ကာ, ကဗျာ စာပေမျိုး

၂။ စကားပြေ စာပေမျိုး

ဟူ၍ နှစ်မျိုး နှစ်စား ခွဲခြားဖော်ပြထားသည်ကို တွေ့ရှိရပေသည်၊

ထိုနှစ်မျိုးတို့တွင် လင်္ကာ ကဗျာစာပေ၌ -

(က) လင်္ကာ ကဗျာ စာပေတို့မှ ခက်ဆစ်ပုဒ်များကို ရှင်းလင်းစွာ သိစေလိုခြင်း၊

( ခ) ယင်း ကဗျာ လင်္ကာစာပေကို မြန်မာစကားပြေ ပြန်ဆိုနိုင်စေလိုခြင်း၊

( ဂ) ကဗျာ လင်္ကာ၏ ဆိုလိုရင်း အနက် အဓိပ္ပါယ်, ရည်ရွယ်ချက်တို့ကို ရှင်းလင်းစွာ သိစေလိုခြင်း၊

(ဃ) ထို ကဗျာ လင်္ကာကို သင်ကြားရသဖြင့် မရှိသော ဗဟုသုတ အကျိုးစီးပွားများကို သိစေလိုခြင်း၊

စသည်များကိုလည်းကောင်း၊

စကားပြေစာပေ၌-

(က) ပြဋ္ဌာန်းထားသော စကားပြေ စာပေတို့ကို အဖြတ်အတောက် မှန်မှန်ကန်ကန် ရွတ်ဖတ် တတ်မြောက်စေလိုခြင်း၊

( ခ) ခက်ဆစ်ပုဒ်များကို ရှင်းလင်းစွာ သိစေလိုခြင်း၊

( ဂ) ယင်းစကားပြေ၏ ဆိုလိုရင်းအဓိပ္ပါယ်, အနှစ်ချုပ်ကိုသိစေလိုခြင်း၊

(ဃ) 'အတုမြင် အတတ်သင်' ဖြစ်ကာ မြန်မာစာပေ အရေးအသား တော်စေလိုခြင်း၊

စသည်များကိုလည်းကောင်း ဦးတည်ချက်, ရည်ရွယ်ချက်တို့ဖြင့် ပြဋ္ဌာန်းခဲ့ခြင်း ဖြစ်ပေသည်။

### ရည်ရွယ်တိုင်းသာ အောင်မြင်လာ

ဦးတည် ရည်ရွယ်ခဲ့ရင်းအတိုင်း "မိုးကုတ်တွင်းမှ ထွက်ခါစ ကျောက်ရိုင်း" ကလေးများတို့သည် ကျွမ်းကျင်လိမ္မာကြ

သော ပန်းထိမ်ဆရာ စသည်တို့၏ ပြုပြင်ပေးမှုကြောင့် ကောင်းမွန်သော အရည်အသွေးတို့ဖြင့် တင့်တင့်တယ်တယ် ရှုချင်ဖွယ် ဖြစ်လာသကဲ့သို့ ရဟန်းငယ်, ရှင်ငယ်တို့သည်လည်း သင်ကြားပို့ချကြသော စာချဆရာတော်တို့၏ သင်ကြားပို့ချမှုကြောင့် တစ်စထက်တစ်စ ပညာရည်, ပညာသွေးတို့ တိုးတက်တင့်တယ် ရှုချင်ဖွယ်သော မြန်မာစာပေ အရေးအသားတို့ဖြင့် ထည်ဝါစပြုခဲ့ကြပေပြီ။ သံဃမဟာနာယကအဖွဲ့ကြီး၏ ရည်ရွယ်ချက် အောင်မြင်လာစ ပြုခဲ့ပေပြီ။

## ယတိဘေဒ လိုအပ်လှ

ယင်း မိုးကုတ်ကျောက်များသည် အရည်အသွေးတို့ဖြင့် တင့်တင့်တယ်တယ် ရှုချင့်စဖွယ်ဖြစ်နေကြသော်လည်း နာရဏီရွှေ, သိင်္ဂီရွှေတို့ဖြင့်တွဲလျက် ဦးခေါင်း-တန်ဆာ, လည်ဆွဲတန်ဆာ အဖြစ်သို့ရောက်မှသာ ပွဲသဘင်အတွင်း ထွင်းဖောက်ဝင်ရောက်နိုင်ကြပေမည်၊ ပြုပြင်ပြီးသား မိုးကုတ်ကျောက်များပမာ တူလှစွာသော ရဟန်းငယ်, ရှင်ငယ်နှင့် ထိုပုဂ္ဂိုလ်တို့၏ အရေးအသားစာပေများသည် ယတိဘေဒ (ပုဒ်ဖြတ်, ပုဒ်ရပ်) စည်းကမ်းဥပဒေများ တည်းဟူသော သင်္ဂီရွှေနှင့် တွဲဘက်ပေးရန် ဧကန်လိုအပ်နေပေပြီဟု ယူဆမိပေသည်။

## လွှဲရှောင်မရသော ယတိဘေဒ

ယတိဘေဒ (ပုဒ်ဖြတ်, ပုဒ်ရပ်) ဆိုသည်မှာလည်း မြန်မာစာပေ ရေးသားရာတွင် အရေးကြီးသော အချက်တစ်ရပ် ဖြစ်ပေသည်၊ ထိုယတိဘေဒ (ပုဒ်ဖြတ်, ပုဒ်ရပ်) စသည် ချွတ်ယွင်းခဲ့ပါမူ လိုအပ်သောအနက်, အဓိပ္ပါယ်သို့ မသက်ရောက်ဘဲ မလိုအပ်သော အနက်အဓိပ္ပါယ် နယ်အတွင်းသို့သာ သက်ဆင်းကျရောက်ခဲ့မည်မှာ မလွဲပေ၊ သို့အတွက် မြန်မာစာပေ အရေးအသားကို အားကြိုးဆောင်ရွက်လေ့လာဆဲဖြစ်သာ ရဟန်းငယ်, ရှင်ငယ် တို့သည် ဆိုလတ္တံ့သော ယတိဘေဒ (ပုဒ်ဖြတ်, ပုဒ်ရပ်) စသော နည်းဥပဒေတို့ကို ဆည်းပူးလေ့လာ, တတ်ကျွမ်းအောင် အားထုတ်ရမည်မှာ မလွဲသာ မရှောင်သာသော ကိစ္စတစ်ရပ် ဖြစ်ပေသည်။

## ယတိဘေဒများ

ယတိဘေဒ ဟူသည်မှာ-

ယတိ=ဖြတ်သင့်, ရပ်သင့်သောနေရာတွင် ပုဒ်တို့ကို ဖြတ်၍, ရပ်၍ ရေးသားခြင်း, ရွတ်ဖတ်ခြင်း။

ဘေဒ=အမျိုးအစား အထူးအပြားများ။

ဖြတ်သင့်, ရပ်သင့်သော ပုဒ်တို့ကို ဖြတ်၍ ရပ်၍ ရေးသားခြင်း, ရွတ်ဖတ်ရခြင်း အမျိုးအစားများစွာတို့ကို ယတိဘေဒ ခေါ်သည်ဟု မှတ်ပါလေ။

ဤယတိဘေဒသည်-

(က) ရှေးခေတ် မြန်မာစာပေ၌ပင် သုံးစွဲခဲ့ပြီးသော ( ၊ )ပုဒ်သေး/တစ်ချောင်းပုဒ်၊ ( ။ ) ပုဒ်ကြီး/ ပုဒ်မ/ နှစ်ချောင်းပုဒ် ဟူသော ယတိဘေဒ အမျိုးအစား၊

( ခ) ရှေးခေတ် မြန်မာစာပေ၌ပင် မရှိခဲ့ဖူးသော်လည်း ယခုခေတ်တွင် တစ်စတစ်စ အသုံးများလာသော အင်္ဂလိပ်သုံး ဝေါဟာရ ( - ) ဟိုင်ဖင်/တုံးတို၊ ( __ )ဒက်(ရှ်)/ တုံးရှည်စသော ယတိဘေဒ အမျိုးအစား၊

ဟူ၍ နှစ်မျိုးနှစ်စား ရှိကြပေသည်၊ ထိုနှစ်မျိုးနှစ်စားတို့တွင် ပုဒ်သေး, ပုဒ်ကြီးတို့ကား မြန်မာစာပေတွင် သုံးရိုးသုံးစဉ်ရှိ၍ ဆိုဖွယ်မရှိသော်လည်း ဟိုင်ဖင်, ဒက်(ရှ်) စသည်တို့မှာ အင်္ဂလိပ်စာပေမှ ဆင်းသက်သုံးစွဲခဲ့သော ယတိဘေဒမျိုးဖြစ်၍ မြန်မာစာပေ၌ သုံးစွဲရန် သင့်ပါအံ့လော၊ သင့်အံ့မထင်ဟု ပြောလိုက ပြောချင်ကြပေလိမ့်မည်၊ ဤသို့ပြောဆိုရန်ကား မသင့်ချေ၊ အဘယ့်ကြောင့်နည်းဟူမူ မည်သည့်ဘာသာ, မည်သည့်စာပေက ဆင်းသက်လာသည်ဖြစ်စေ စာပေအရေးအသားတို့၌ ရှုပ်ထွေးမှုမရှိ-သန့်ရှင်းပေါ်လွင်စေနိုင်သည့် အရာဌာနမျိုးဖြစ်လျှင်ကား ငြင်းဆန်ရန်မသင့်၊ ယူငင်သုံးစွဲသင့်သည်သာ ဖြစ်သောကြောင့်ပေတည်း။

# ယတိဘေဒ အကျယ်

## ၁။ ကွက်လပ်အကြောင်းအကျယ်

**(နိယံ)** ဝိဘတ်တစ်လုံး၊ ဆုံးခဲ့တုံမှတ်၊ ပုဒ်နောက်ရပ်၊ 'ကွက်လပ်' ခြားရမည်။

'ကွက်လပ်' ဟူသည် ဝိဘတ်တစ်လုံးဆုံးသော ရှေ့ပုဒ်နှင့်နောက်ပုဒ်၏အကြားတွင် စဉ်းငယ်ခွါဟထားမှုကို ဆိုလိုသည် ပါဠိဘာသာတွင် ဝိဘတ်မကျေဘဲ ဝိဘတ်ဟင်းလင်းမြင်တွေ့နေရသော ပုဒ်မျိုး, မြန်မာဘာသာတွင် ဝိဘတ်သံမပျောက်ဘဲ ဝိဘတ်သံထွက်နေသော ပုဒ်မျိုးကို 'ဝိဘတ်သံ မပျောက်ဘဲ ဝိဘတ်သံထွက်နေသော ပုဒ်မျိုး ရှိခဲ့လျှင် ရှေ့ပုဒ်နှင့် နောက်ပုဒ်ကြားတွင် ကွက်လပ်ခြား၍ ရေးသားရသည်၊ ရွတ်ဖတ်လျှင်လည်း စဉ်းငယ်ရပ်နား၍ ရွတ်ဖတ်ရသည်၊ သို့မှသာ အဓိပ္ပါယ်မပျက် လိုအပ်သောအနက် ထွက်လာပေမည်။

### ဝိဘတ်မကြေသော ပါဠိဘာသာ ပုံစံ

- ဂါမာ အပေန္တိ မုနယော။

ဤပုံစံတွင် ဂါမာ၌ ဝိဘတ်တစ်လုံး, အပေန္တိ ၌ ဝိဘတ်တစ်လုံး, မုနယော၌ ဝိဘတ်တစ်လုံး ဆုံးသောကြောင့် 'ကွက်လပ်' ခြား၍ ရေးသားရလေသည်။

### ဝိဘတ်မကြေသော မြန်မာဘာသာ ပုံစံ

- ရဟန်းတို့သည် ရွာမှ ဖဲသွားကြကုန်၏။

ဤပုံစံ- 'တို့သည်, မှ, ကုန်၏' ဟူသော ဝိဘတ်ဆုံးသောပုဒ်တို့၏ အကြား၌ 'ကွက်လပ်' ခြား၍ ရေးသားရသည်။

အချို့သော ပါဠိဘာသာ, မြန်မာဘာသာတို့၌ ဝိဘတ်ကြေနေသည်, ဝိဘတ်ပျောက်နေသည်ကိုလည်း တွေ့ရသည်၊ ထိုသို့ဝိဘတ်ကြေ, ဝိဘတ်သံပျောက်နေသော အရာဌာနမျိုးတွင်လည်း ဉာဏ်နှင့်မျှော်ထောက်ကာ 'ကွက်လပ်' ခြား၍ ရေးသားရလေသည်။

### ဝိဘတ်ကြေသော ပါဠိဘာသာပုံစံ

- ဘိက္ခု ဇနံ ဓမ္မံ သာဝေတိ။

ဤပုံစံတွင် ဘိက္ခု ၌ သိ ဝိဘတ်တစ်လုံး ကြေနေရကား ဝိဘတ်တစ်လုံး ဆုံးသည်ပင် မည်၏၊ ထို့ကြောင့် ဘိက္ခု နောင် 'ကွက်လပ်' ခြား၍ ရေးရသည်။

### ဝိဘတ်ကြေသော မြန်မာဘာသာ ပုံစံ

- ရှင်ဉာဏသည် သက်တော်နှစ်ဆယ် ရောက်သောအခါ ဖျောက်ဆိပ်ပင်ဆရာတော် ဦးနန္ဒဓဇကို ဥပဇ္ဈာယ် ပြုလျက် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ဤပုံစံ၌ "သက်တော်နှစ်ဆယ် ရောက်သောအခါတွင်" ဟုဆိုလိုလျက် 'သို့, တွင်' ဟူသော ဝိဘတ်သံကို ချေဖျက်ထားသောကြောင့် ထိုပုဒ်တို့အကြား၌ 'ကွက်လပ်' ခြား၍ ရေးသားရသည်။

### တစ်နည်းပုံစံ

- ဘုရားအလောင်း ဘိုးတော်အဥ္စနမင်း သက္ကရာဇ်ရှစ်ထောင် ခြောက်ရာလေးဆယ်ကို ဖြို၍ အတိုနှစ်ခု ထားသည်မှ---

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၇

ဤပုံစံ၌ "ဘုရားအလောင်း၏ ဘိုးတော်ဖြစ်သော အဥ္စနမင်းသည်" ဟုဆိုလိုလျက် '၏, ဖြစ်သော, သည်' ဟူသော ဝိဘတ်သံများကို ချေဖျက်ထားသောကြောင့် ထိုပုဒ်တို့အကြား၌ 'ကွက်လပ်' ခြား၍ ရေးသားရသည်။

**ကွက်လပ်အကြောင်း ပြီးပြီ။**

------------

## ၂။ ပုဒ်သေးအကြောင်း အကျယ်

**(နိယံ)** ဝါကျငယ်ပင်၊ ဆုံးခဲ့လျှင်၊ အစဉ် 'ပုဒ်သေး' ချရမည်။

ဤ နိယံ၌ အကြောင်းအရာတစ်ခုကို ကြိယာအကြိမ်များစွာသတ်၍ ဝါကျပေါင်းများစွာတို့ကို စုပေါင်းရေးသားခဲ့ရာတွင် လိုအပ်သောအကြောင်းအရာဆုံးမှ ဝါကျကြီးတစ်ခုပြု၍ အဆုံးသတ်ခဲ့ပါမူ ဝါကျကြီးအတွင်း၌ ငုပ်လျှက်ပါနေသော နိဿိတဝါကျ အစိပ်စိပ်တို့ကို ဝါကျငယ်ဟု ဆိုလိုသည်။

ထို နိဿိတဝါကျငယ်တို့ ဆုံးတိုင်း ဆုံးတိုင်းတွင် ပုဒ်သေး/ တစ်ချောင်းပုဒ်/ တစ်ပိုဒ်ပုဒ်/ ပုဒ်ရပ်ကလေး/ ပုဒ်ဖြတ်ကလေးတို့ကို ချ၍ ရေးသားရသည်။

**မှတ်ချက်။** ။ ဤစကားရပ်၌ 'ဝါကျငယ်' ပေါင်းများစွာ စုပေါင်းရေးသားရသောအခါ လိုအပ်သော အကြောင်းအရာကုန်ဆုံး၍ အပြီးသတ်သောဝါကျကို 'ပဓာနဝါကျ' ဆိုသည်၊ ထိုဝါကျ၏ ရှေ့၌ဖြစ်သော ထို အကြောင်းအရာကို အမှီပြု၍ ဖြစ်ပေါ်လာသော ဝါကျငယ်တို့ကို 'နိဿိတဝါကျ' ဆိုသည်ဟုမှတ်ပါ၊ ဤစာစောင်၌ ပဓာနဝါကျကို 'ဝါကျကြီး' နိဿိတဝါကျကို 'ဝါကျငယ်' မှည့်ခေါ်သုံးစွဲမည်ဟု မှတ်ပါလေ။

## ပုဒ်သေးပုံစံ

မြတ်စွာဘုရားသည် အနုသန္ဓေကိုစပ်တော်မူ၍ ယခုအခါ ဘဒ္ဒကာပိလာနီသည် ထိုအခါ လုလင်၏ အမိ ဖြစ်ဖူးပြီ၊ ယခုအခါ မဟာကဿပသည် ထိုအခါ လုလင်၏အဘဖြစ်ဖူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ တပည့်လုလင် ဖြစ်ဖူးပြီ၊ ယခု ငါဘုရားသည်လျှင် ထိုအခါ ဒိသာပါမောက္ခဆရာ ဖြစ်ဖူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

ငါးရာငါးဆယ်၊ ပ၊ နှာ-၂၈၂ ။

## သတိပြုစရာ

ဤပုံစံ၌ 'မြတ်စွာဘုရားသည်' မှ စ၍ 'ဇာတ်တော်ကို ပေါင်းတော်မူ၏' တိုင်အောင်သည် ဝါကျကြီး၏ အတွင်း၌ ဝါကျငယ်ငါးခု အတွင်းတွင် ငုပ်လျှက်ပါဝင်နေသည်၊ ထိုဝါကျငယ်တို့၏ အဆုံးတွင် ပုဒ်သး/ တစ်ချောင်းပုဒ် ချလျှက် ရှိနေသည်ကို သတိပြုပါ။

## တစ်နည်းပုံစံ-

မဟာသမ္မတမင်းမှ စ၍ နှစ်ကျိပ်ရှစ်ယောက်သော မင်းတို့သည် အသက် အသင်္ချေ နေကုန်၏၊ ကုသဝတီ, ရာဇဂြိုဟ်, မိထိလာ ဟူသော မင်းနေပြည်၌ မင်းမူကုန်၏၊ ထိုမင်းတို့၏ အဆုံးစွန် **အစမ္ဗိမင်း**၏သားမြေးဖြစ်သော တစ်ရာမျှလောက်သောမင်းတို့သည် ကုသဝတီပြည်၌ မင်းမူကုန်၏၊ ထိုမင်းတို့၏ အဆုံးစွန် အရိန္ဒမမင်းတို့၏သားမြေး ငါးကျိပ်ခြောက်ယောက်တို့သည် အယုဇ္ဈပူရပြည်၌ မင်းမူကုန်၏၊ ထိုမင်းတို့၏ အဆုံးစွန် ဒုပ္ပသဟမင်း၏ သားမြေး ခြောက်ကျိပ်တို့သည် ဗာရာဏသီပြည်၌ မင်းမူကုန်၏။

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၄ ။

**[အမှာစကားချပ်**။ ကြိယာတစ်လုံး ဆုံးသော ဝါကျတိုင်း၌ အင်္ဂလိပ် ဘာသာတွင် ပုဒ်ဖြတ်, ပုဒ်ရပ် လက္ခဏာ ဖြစ်သော ( . ) ဟူသော (full Stop ) ဖူးစတော့ ကို သုံးစွဲလေ့ရှိသည်။ မြန်မာဘာသာ၌ကား ထိုဖူးစတော့ လက္ခဏာသည် အောက်မြစ်နှင့်တူနေရကား အဓိပ္ပါယ်အယူအဆ, အရွတ်, အဖတ် ရှုပ်ထွေးလွဲမှားဖွယ် ရှိသည်၊ ထို့အတွက် ( . ) ဟူသော ဖူးစတော့ကို ယူငင်သုံးစွဲရန် မသင့်သောကြောင့် သုံးစွဲလေ့မရှိချေ၊ မြန်မာစာပေတွင် ( ၊ ) ဟူသောပုဒ်သေးနှင့် ( ။ ) ဟူသော ပုဒ်ကြီး/ ပုဒ်မတို့ကို ကြိယာတစ်ခုဆုံးသော ပုဒ်တိုင်းတွင် ပုဒ်ဖြတ်, ပုဒ်ရပ်အဖြစ် သုံးစွဲရိုး အစဉ် အလာဖြစ်သည်၊ ထိုသို့ ပုဒ်ဖြတ်, ပုဒ်ရပ်၏လက္ခဏာဖြစ်သောကြောင့် ( ၊ ) နှင့် ( ။ ) တို့ကို ( . )ပင် မဟုတ်သော်လည်း မာတိကာပြဇယား၌ အင်္ဂလိပ် ဝေါဟာရဖြင့် ဖူးစတော့ဟု အမည်ပြုထားခဲ့ခြင်း ဖြစ်ပေသတည်း။

**(နိယံ)** အမည်, ဂုဏ်ပုဒ်၊ ယှဉ်တွဲထုတ်က၊ ဂုဏ်ပုဒ်ရှေ့တွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ်ထားရမည်။

ဤနိယံအရ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ အမည်နှင့်ထိုပုဂ္ဂိုလ်တို့၏ ဂုဏ်ထူးတို့ကို တွဲဖက် ဖော်ပြရေးသားရာတွင် အမည်၏ နောက်-ဂုဏ်ထူး၏ရှေ့-အကြားတွင် 'ပုဒ်သေး/ တစ်ချောင်းပုဒ်' ခြား၍ ရေးသားရသည်။

**- ပုံစံ -**

၁။ ဒေါက်တာခင်မောင်ဝင်း၊ ဝန်ကြီး

၂။ ဦးမြင့်အောင်၊ ဒုတိယဝန်ကြီး

၃။ ဦးတင်၏၊ ညွှန်ကြားရေးမှူးချုပ်
မြန်မာစာလုံးပေါင်း သတ်ပုံကျမ်း။

**(နိယံ)** နေ့စွဲ နောက်ရပ်၊ စာအမှတ် နောက်တွင်၊ ‘ပုဒ်သေး’ဝင်၊ အစဉ် ထားရမည်။

စာအမှတ် ဟူ၍လည်းကောင်း၊ နေ့စွဲ ဟူ၍လည်းကောင်း မြန်မာစာနှင့် ဂဏန်းသင်္ချာတို့ကို တွဲဖက် ရေးသားလိုခဲ့ပါမူ စာအမှတ်နှင့် နေ့စွဲဟူသော မြန်မာစာ၏နောက်, ဂဏန်းသင်္ချာ၏ရှေ့ ကြားအရပ်တွင် ‘ပုဒ်သေး’ ခြား၍ ရေးသားရသည်။

**-ပုံစံ-**

- စာအမှတ်၊ ၃၃၀/၁/မတန
- နေ့စွဲ၊ ၁၃၄၂-ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော် (၇)ရက်

ညွှန်ကြားလွှာအမှတ်-၁၀။

**(နိယံ)** ဂါထာဗန္ဓ၊ ပ, နှင့် တ, တို့၊ ပါဒဆုံးတွင်၊ ‘ပုဒ်သေး’ ဝင်၊ အစဉ် ထားရမည်။

ဤနိယံအရ ပါဠိဘာသာဖြင့် ဂါထာဗန္ဓ စီကုံးရာ၌ ပထမပါဒနှင့် တတိယပါဒတို့၏ အဆုံးတွင် ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ခြား၍ ရေးသားရသည်။

**-ပုံစံ-**

အသာရေ သာရမတိနော၊ သာရေစာသာရဒဿိနော။
တေ သာရံ နာဓိဂစ္ဆန္တိ၊ မိစ္ဆာသင်္ကပ္ပ ဂေါစရာ။ ။

ဓမ္မပဒ၊ နှာ-၁၄၊ ဂါထာအမှတ်-၁၁။

**(နိယံ)** ကဗျာစီမူ၊ ရတု စ,စွာ၊ ပါဒဆုံးတွင်၊ ‘ပုဒ်သေး’ဝင်၊ အစဉ် ထားရမည်။

ဤနိယံအရ ကဗျာဗန္ဓ စီကုံး ရေးသားရာတွင် ပျို့, လင်္ကာ, ရတု, ဧချင်း စသော လေးလုံးစပ် ကဗျာမျိုးကို ရေးသားခဲ့လျှင် လေးလုံးတစ်ပါဒ ဆုံးတိုင်းဆုံးတိုင်း ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ခြား၍ ရေးသားရသည်။

**-ပုံစံ-**

ငါးဆူရွှေကြာ၊ နိမိတ်လာ၍၊ ငါးဖြာ မြွာလျက်၊ တစ်ပင်နက်ဝယ်၊ ငါးခက်ဖူးငုံ၊ ပေါ်လတ်တုံက၊ ငါးစုံသင်္ကန်း ကြိုင်ပျံ့မွှန်းကို၊ ငါးခန်းဘုံနေ၊ ယူတုံလေ၍၊ ငါးထွေအောင်မြင်၊ ရွှေပလ္လင်ထက်၊ ငါးအင်ခက်ကျိုင်း၊ နောက်မှီခိုင်းလျက်၊ ငါးဆိုင်းမာရ်မြောက်၊ ဗောဓိအောက်ဝယ်၊ ငါးယောက်ထင်ရှား၊ စောဘုရားတို့၊ ငါးပါးအညီ၊ ဖြစ်တန်သည်ဟု၊ ငါးမည်မိုးနတ်၊ နိမိတ်ဖတ်သည်။ ။မဥ္ဇူတ်ကမ္ဘာ ပွင့်ရာသော်။

ငယ်၊ လင်္ကာနှင့်စကားပြေ၊ နှာ-၇ ။

**(နိယံ)** သံပေါက် ရှည် ဆို၊ လင်္ကာတို၌၊ ထိုနည်းတိုင်းပင်၊ ‘ပုဒ်သေး’ဝင်၊ အစဉ် ထားရမည်။

ဤနိယံ အရ သံပေါက်ရှည် ခေါ်သော လင်္ကာတို့ကို ရေးသားရာ၌လည်း ရှေ့ပျို့, လင်္ကာ စသည့်၌ ဆိုခဲ့ပြီးသော နည်းအတိုင်း လေးလုံးတစ်ပါဒ ဆုံးတိုင်းဆုံးတိုင်း ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ခြား၍ ရေးသားရသည်။

**-ပုံစံ-**

အချမ်းပြင်းဝှန်၊ အလွန် ပူနိုး၊ မိုးချုပ်လှမော၊ စောလှလွန်းရောင်၊ ဆာလောင်ပြင်းပြ၊ ဝမ်းဝလွန်တွေ၊ နေကပညာ၊ မပွားရာသည်၊ ခြောက်ဖြာပျင်းသူ့အပြစ်တည်း။

ယဉ်ကျေးမှုသင်ခန်းစာ၊ စာမျက်နှာ- ၅၁

**(နိယံ)** သံပေါက်ရေးရာ၊ ရှေးနှစ်ပါဒတွင်၊ ‘ပုဒ်သေး’ ဝင်၊ အစဉ် ထားရမည်။

ဤနိယံအရ သံပေါက်ကို ရေးစပ်ရာတွင်လည်း အစလေးလုံးနှင့် အလယ်သုံးလုံး နှစ်ပါဒတို့၏ အဆုံးတွင် ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ချ၍ရေးသားရမည်။

**-ပုံစံ-**

- ကျမ်းသိင်္ဂါလ၊ သုတ်ဝယ်ပြ၊ သုံးဝ မြတ်ဆရာ။

- ကျင့်ဝတ် မပြေ၊ ပါယ်လေးထွေ၊ လားလေ ရှည်မြင့်ကြာ။
- ဤသည် ဝတ်ကုန်၊ ဆွေမျိုးစုံ၊ ခြောက်ဘုံ ထက်နတ်ရွာ။

ယဉ်ကျေးမှုသင်ခန်းစာ၊ နှာ-၅၀ ။

**(နိယံ)** ရှစ်လုံးဖွဲ့ထုံး၊ ရှစ်လုံး ဆုံးက၊ သုံးပါဒတွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ် ထားရမည်။

ဤနိယံအရ ရှစ်လုံးဖွဲ့ကဗျာ ရေးသားစီကုံးရာတွင် ရှစ်လုံးတစ်ပါဒထား၍ လေးပါဒအပြည့်အစုံ ရေးရမြဲ ဖြစ်၏။ ထိုလေးပါဒတို့တွင် အစသုံးပါဒတို့၏အဆုံး၌ 'ပုဒ်သေး/တစ်ချောင်းပုဒ်' ချ၍ ရေးသားရသည်။

-ပုံစံ-

ဤသို့ပြုရ ပုညထွေထွေ၊
ပစ္စည်းကြောင်းဆက် ဖိုလ် မဂ် အမွေ၊
ရပါစေကြောင်း ဆုတောင်းပန်ချွေ၊
နိဗ္ဗာန်နန်း စံမြန်းရပါစေ။

လယ်တီကေလာသ

**(နိယံ)** ဒွေးချိုး, တြိချိုး၊ လေးချိုး ကဗျာရေးကာစီကြ၊ ချိုးရှေ့မှလျှင်၊ ပါဒနောက်တွင်၊ 'ပုဒ်သေး'ဝင်၊ အစဉ် ထားရမည်။

ဤနိယံအရ ဒွေးချိုး, တြိချိုး, လေးချိုး ကဗျာတို့ကို ရေးသားစီကုံးတွင် အချိုးပုဒ်တို့၏ ရှေ့၌ဖြစ်သော ပုဒ်တို့၏ အဆုံးတို့တွင် 'ပုဒ်သေး/တစ်ချောင်းပုဒ်'ချ၍ ရေးသားရသည်။

- ဒွေးချိုး ပုံစံ-

- တောင်တောရယ်သာ၊ မာလာက ငုံဖူး။
- တစ်ပင်ကို နှစ်ပင်ယှက်တယ်၊ ကျေးငှက်က မြူး။ ။

-တြိချိုး ပုံစံ-

- ကြက်ညီနောင် ရေဝယ်မျောစေတော့၊
  မြကြောရယ်တဲ့ မင်းဝံရွှေတောင်၊
  လဲတော့ မရှောင်။
- အာကာဘောင်၊
  ကြယ်ပြောင်ကွဲ့ မြေလူး။
- လေလာလျှင် မြေပါရွှေ့စေတော့၊
  ခင်လေးကို မောင် မမုန်းတယ်၊
  (ကွယ်) ဆုံးဘဝကူး။ ။

စလေ ဦးပုည

[မှတ်ချက်။ ။'ဆုံးဘဝကူး' ကို 'သုံးဘဝကူး' ဟုလည်း ဆိုကြသေးသည်။]

- လေးချိုး ပုံစံ-

- ကျင့်မူရာ မှုခပ်ပျင်းနှင့်၊
  သွပ်ဖျင်း သူယုတ်တွေ။
- တတ်ပညာ ပဇာတတ်ပါလိမ့်၊
  များမှတ်ကြလေ။
- အတတ်ကို မရှာဖွေလျှင်၊
  ဥစ္စာတွေ ရရေး။
- ဘယ့်နှယ် ကြံဖန်မြောက်ပါ့မယ်၊

မိုးလောက် ကွာဝေး။ ။

ဓမ္မနီတိချိုး၊ စဉ်ပါဆရာတော်

**(နိယံ)** တေးထပ်မျိုးမှန်၊ သုံးကဏ္ဍဝယ်၊ ရှေ့ပုဒ်သွယ်၌၊ မှတ်ဖွယ်‘ပုဒ်သေး’ ချရမည်။

ဤနိယံ အရ တေးထပ်ကဗျာမျိုးကို ရေးသားစီကုံးရာတွင် တေးထပ်ဟူသည်-ခြောက်ပုဒ်ကို တစ်ကဏ္ဍဖွဲ့၍ သုံးကဏ္ဍ ဆယ့်ရှစ်ပုဒ် ရှိမြဲ ဖြစ်၏၊ ထိုကဏ္ဍတို့၏ ရှေ့ဖြစ်သော ပုဒ်အဆုံးတို့တွင် ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ချ၍ ရေးသားရသည်။

**တေးထပ် ပုံစံ**

- တပိုင်းကြောင် ကျက်စာရရုံနှင့်၊
ခက်ပါလှ သဘောဉာဏ်။
ထက်မာန အပြောသန်တယ်၊
ဒေါသမာန် ထူပွား။
စောဒက တုဖက်လာလျှင်၊
သူ့ထက်ငါ ငြင်းတဲ့လူစား။
- ဘုရားဟော မြက်ဓမ္မခန်ကို၊
တက်လေဟန် ယောင်ဝါး။
ပရမတ်ပြန် အကြောင်းသမားတွေတို့၊
ထောင်လွှားကြ သူ့ထက်ငါ။
အသိဉာဏ် တစ်ထွာလောက်ကယ်နှင့်၊
ညှာမထောက် ဟောတတ်လှပါ။
- ပရိသတ် ထောမနာအောင်၊
စောဒနာ ဉာဏ်အကောက်တွေနှင့်။
ကန်အကြောက် အတင်းမရှောင်၊
ငြင်းကြ လူ့ဘောင်။
ပိဋကတ် အစွယ်ထောင်လျှင်၊
အပါယ်ဘောင် ဆင်းရလိမ့်လေး။ ။

လယ်တီဆရာတော်

(နိယံ) စာမျက်နှာများ၊ ပိုဒ်ရေများကို၊ ညွှန်ကြားရာတွင်၊ များခဲ့လျှင် ကြားတွင် ‘ပုဒ်သေး’ ချရမည်။

ဤ နိယံအရ ကျမ်းစာတစ်ခုတည်းမှ နောက်စာမျက်နှာများကိုလည်ကောင်း, အပိုဒ်များကိုလည်းကောင်း ညွှန်ကြားလိုရာ, တစ်ခုသောကျမ်းမှ စာမျက်နှာများကိုလည်းကောင်း,အပိုဒ်များကိုလည်းကောင်း ညွှန်ကြားလိုရာ အခါတို့၌ စာမျက်နှာနှင့်ပိုဒ်ရေ ဂဏန်း များခဲ့လျှင် ဂဏန်းသင်္ချာ တစ်ခုနှင့်တစ်ခုအကြား ‘ပိုဒ်သေး/တစ်ချောင်းပိုဒ်’ ချ၍ ရေးသားရသည်။

**စာမျက်နှာညွှန်း ပုံစံ**

- ပြည့်စုံမော်ကွန်း၊ ၃၀၊ ၁၁၉၊ ၃၃၀၊ ၃၇၁၊ ၃၇၉။

**အပိုဒ်ညွှန်း ပုံစံ**

- ထို အပိုဒ်မျိုး (၁၀)ပိုဒ်ရှိသည်၊ ယင်းတို့မှာ-အပိုဒ်၊ ၆၄၊ ၁၂၄၊ ၁၅၃၊ ၁၅၄၊ ၁၅၉၊ ၁၇၀၊ ၁၇၁၊ ၁၇၉၊ ၁၈၀၊ ၁၈၃-တို့ဖြစ်ကြသည်။

သံယအဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများ (ပြင်ဆင်ဖြည့်စွက်ချက် မူကြမ်း)

**(နိယံ)** သို့မဟုတ် ရှေ့တွင်၊ ‘ပုဒ်သေး’ ဝင်၊ အစဉ်ချရမည်။

ဤ နိယံအရ စာရေးရာတွင် အကြောင်းအရာတစ်ခုသို့ ရွှေ့ပြောင်းလျက် စာကြောင်းမခွဲဘဲ တစ်ဆက်တည်း

ရေးလိုလျှင် ‘သို့မဟုတ်’ ဟူသောစာပိုဒ်၏ ရှေ့တွင် ‘ပုဒ်သေး/တစ်ချောင်းပုဒ်’ ချ၍ရေးသားရသည်။

**ပုံစံ**

ဘုန်းကြီးကျောင်းအဖြစ် ဆက်လက်၍ အသိအမှတ်ပြုရန်၊ သို့မဟုတ် အသိအမှတ်မပြုရန်ကိုမူ နိုင်ငံတော်သံဃ မဟာနာယကအဖွဲ့က အဆုံးအဖြတ် ပေးမည်ဖြစ်ပါသည်။

**(နိယံ)** အနက် နောက်တွင်၊ ‘ပုဒ်သေး’ဝင်၊ အစဉ်ချရမည်။

ဤ နိယံအရ ပါဠိကိုအနက်ပေး၍ နိဿယရေးနည်း ရေးကြရာတွင် ပါဠိ၏ နောက်၌ (ဟပ်ဖ်)ခေါ် တုံးတစ်ဝက်ချပြီး အနက်၏နောက်တွင် ‘ပုဒ်သေး’ ချ၍ ရေးသားရသည်။

**ပုံစံ**

အဟံ-ငါသည်၊ မဟာဝံသံ-မဟာသမ္မတ စသော အသမ္ဘိန္န ခတ္တိယမင်းမြတ်၏အနွယ်ဖြစ်တော်မူသော၊

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၁။

မှတ်ချက်။ ။အချို့သော နိဿယစာတို့၌ အနက်၏နောက်တွင်ပုဒ်ကြီး၊ နှစ်ချောင်းပုဒ်ချလျက် ရှိကြသည်၊ အပြီးအဆုံးသို့ ရောက်သောဝါကျမျိုး မဟုတ်၍ မသင့်ဟု မှတ်ယူရာ၏။

**ပုဒ်သေး၊ တစ်ချောင်းပုဒ် အကြောင်းပြီးပြီ။**

-------------

## ပုဒ်ကြီး အကြောင်း အကျယ်

**(နိယံ)** စုပေါင်း ဝါကျ၊ ရေခဲ့ကြရာ၊ နောက်ဆုံးမှာ၊ ချပါ ‘ပုဒ်ကြီး’ တည်း။

ဤနိယံအရ ဝါကျနှစ်ခု, သုံးခုစသည်တို့ကို စုပေါင်းရေးခဲ့ရာ အပေါင်းဝါကျကြီး၏ အတုံးခပ်ကြာကြာ ရပ်တံ့ ရွတ်ဆိုရမည့်နေရာ၌ ‘ပုဒ်ကြီး၊ ပုဒ်မ၊ နှစ်ချောင်းပုဒ်’ ချ၍ရေးသားရသည်။

**ပုံစံ**

စဉ့်ပါဆရာတော်သည် စစ်ကိုင်းမြို့နယ် မန်ကျည်းပင်ရွာ ဇာတိဖြစ်သည်၊ သက္ကရာဇ် ၁၄၀ တွင် ဖွားမြင်သည်၊ ငယ်မည်မှာ မောင်ရွှင် ဖြစ်သည်။

ငယ်၊ လက်ာ နှင့်သကားပြေ၊ နှာ-၈။

[မှတ်ချက်။ ။ဤပုံစံ၌ ဝါကျငယ်သုံးခုကို စုပေါင်းရေထားသည်၊ သုံးခုမြောက် နောက်ဆုံးဝါကျ၏ အဆုံးတွင် ပုဒ်ကြီး၊ ပုဒ်မ၊ နှစ်ချောင်းပုဒ်ချ၍ ရေးသားထားသည်။]

**(နိယံ)** တစ်ဝါကျတည်း၊ ပြီးဆုံးခဲ့ရာ၊ ထိုအခါ၊ ချပါ ‘ပုဒ်ကြီး’ တည်း။

ဤနိယံအရ မိမိရေးလိုသော အကြောင်းအရာကို တစ်ဝါကျတည်းဖြင့် အပြီးအဆုံးရေးခဲ့လျှင် ထိုဝါကျ၏ ကြိယာ အဆုံးတွင် ‘ပုဒ်ကြီး၊ ပုဒ်မ၊ နှစ်ချောင်းပုဒ်’ ချ၍ ရေးသားရသည်။

**ပုံစံ**

မောင်ရွှင်သည် ကျောင်းနေချိန် ရောက်သောအရွယ်တွင် မန်ကျည်းစင်ရွာကျောင်း ဆရာတော်ထံ ရှင်သာမဏေ ဝတ်၍ စာပေများကို သင်ကြားခဲ့သည်။

ငယ်၊ လက်ာနှင့်စကားပြေ၊ နှာ-၈။

**(နိယံ)** အပိုဒ် နံပါတ်၊ နောက်ရပ်တွင်မှာ ၊ ချပါ ‘ပုဒ်ကြီး’ တည်း။

ဤနိယံအရ မိမိရေးထားသော စာသည်အပိုဒ်ကြီးပေါင်းများစွာ ရေးခဲ့ရ၍ ပိုဒ်ရေနံပါတ် ဂဏန်းထည့်သွင်းခဲ့လျှင် စာပိုဒ်နံပါတ် ဂဏန်း၏နောက်တွင် ‘ပုဒ်ကြီး၊ ပုဒ်မ၊ နှစ်ချောင်းပုဒ်’ ချ၍ ရေးသားရသည်။

**ပုံစံ**

၁။ ဤစည်းမျဉ်းကို“ဝိနည်းဓမ္မကံ အဓိကရုဏ်းမှုခင်းများ ဖြေရှင်းဆုံးဖြတ်ရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများ” ဟု ခေါ်တွင်စေရမည်။

၂။ ဤလုပ်ထုံးလုပ်နည်းတွင် ပါရှိသော အောက်ပါစကား ရပ်များသည် ဖော်ပြလတ္တံ့ပါအတိုင်း အဓိပ္ပါယ် သက်ရောက်စေရမည်။

လုပ်ထုံးလုပ်နည်း၊ ပြင်ဆင်ချက်မူကြမ်း။

**(နိယံ)** အမှတ်စဉ်ကို၊ ပြဆိုနံပါတ်၊ ထိုနောက်ရပ်၊ ချအပ် 'ပုဒ်ကြီး'တည်း။

ဤနိယံအရ လူအမည်,ကျောင်းအမည်,မြို့ရွာ အမည်ကျမ်းအမည် စသည်တို့ကို ရေတွက်ရာတွင် အရေအတွက် အမှတ်စဉ်ဂဏန်းနံပါတ်၏ နောက်တွင် 'ပုဒ်ကြီး၊ ပုဒ်မ၊ နှစ်ချောင်းပုဒ်' ချ၍ရေးသားရသည်။

**-ပုံစံ-**

| | |
|---|---|
| ၁။ ဦးဇဝန | လက်ပန်ဝင်းကျောင်း |
| ၂။ ဦးစန္ဒန | မြို့မစာသင်တိုက်၊ ပဲခူးမြို့ |
| ၃။ ဦးစန္ဒေဘာသ | ၎င်း |
| ၄။ ဦးဝေပုလ္လ | ၎င်း |
| ၅။ ဦးဝိလာသ | ဝင်းဘော်ဒါကျောင်း |

ဝိနည်းဓိုရ်သင်တန်း

**-တစ်နည်းပုံစံ-**

၁။ ဘူရိဒတ်လက်ာကြီး

၂။ ဘူရိဒတ်ဇာတ်ပေါင်းပို့

၃။ တံတားဦးတည် မင်္ဂလာစေတီမော်ကွန်း

မူလတန်း၊ လက်ာနှင့်စကားပြေ

**-တစ်နည်းပုံစံ-**

၁။ မောင်သန့်စင်

၂။ မောင်ဘလှိုင်

၃။ မောင်အုံးခိုင်

ဝိနည်းဓိုရ်သင်တန်း

**(နိယံ)** သင်္ချာနောက်မှ၊ ပြည့်သင်္ချေ၊ နောင်၌ပေ၊ ချလေ'ပုဒ်ကြီး' တည်း။

ဤနိယံအရ ရှေ့၌ အပေါင်းဖြစ်သော သင်္ချာဂဏန်း ပြပြီးသည့်နောက် အရေအတွက် သင်္ချေကိုပြရာ၌ ဂဏန်းစဉ် ၏ နောက်တွင် ပုဒ်ကြီးချ၍ရေးသားရသည်။

**-ပုံစံ-**

**ဂိုဏ်းပေါင်းစုံ ပရိယတ္တိပညာရေး မူ ၄-ချက်**

၁။ ကိုယ်ကျင့်တရား ပိုမိုကောင်းမွန်စေခြင်း၊

၂။ ပိဋကတ် ကျမ်းဂန် နှံ့စပ်စေခြင်း၊

၃။ ပါဠိဘာသာ တတ်မြောက် ကျွမ်းကျင်စေခြင်း၊

၄။ မြန်မာစာပေ အရေးအသား တော်စေခြင်း၊

မှတ်တမ်း-မှ

[မှတ်ချက်။ ။ ဤပုံစံ၌ " မူ ၄-ချက် " ဟူသော သင်္ချာကိုပြပြီးလျှင် ထိုသင်္ချာ၏ အရေအတွက်ကို ၁-၂-၃-၄-စဉ်၍ အရေအတွက်ဖော်ပြသည်ကို သင်္ချေဟုဆိုသည်မှတ်ပါ။ ]

**( နိယံ )** ဂါထာ ဗန္ဓ၊ ဒု, နှင့် စ, ပင်၊ အဆုံးတွင်၊ ချချင်း " ပုဒ်ကြီး " တည်း။

ဤနိယံ အရ ပါဠိဘာသာဖြင့် ဂါထာဗန္ဓ စီကုံးရာ၌ ဒုတိယပါဒ နှင့် စတုတ္ထပါဒတို့၏ အဆုံးတွင် "ပုဒ်ကြီး/ ပုဒ်မ/ နှစ်ချောင်းပုဒ်" ချ၍ ရေးသားရသည်။

**ပုံစံ**

အပ္ပမာဒေါ အမတံ ပဒံ၊ ပမာဒေါ မစ္စုနော ပဒံ။
အပ္ပမတ္တာ န မီယန္တိ၊ ယေ ပမတ္တာ ယထာ မထာ။

ဓမ္မပဒ၊ နှာ-၁၆၊ ဂါထာ အမှတ်-၂၁။

**( နိယံ )** ကဗျာ စီမှု၊ ရတု စ, စွာ၊ ပါဒ ကုန်သည်း၊ အပိုဒ်ဆုံး၊ သုံးလေး ' ပုဒ်ကြီး ' တည်း။

ဤ နိယံအရ ကဗျာဗန္ဓ စီကုံးရေးသားရာတွင် ပျို့လင်္ကာ, ရတု, ဧချင်း စသော လေးလုံးစပ်ကဗျာမျိုးကို ရေးသားခဲ့လျှင် ကဗျာပိုဒ်ကြီး၏ အဆုံးတွင် ' ပုဒ်ကြီး/ ပုဒ်မ/ နှစ်ချောင်းပုဒ် ' ချ၍ ရေးသားရသည်။

**ပုံစံ**

သန္ဓေ ယူခါ၊ ဆယ်လကြာသော်၊ မဟာသက္ကရာဇ်၊ ခြောက်ဆယ့်ရှစ်ကြုံ၊ ကဆုန်လပြည့်၊ ဆင်မင်းနေ့ဝယ်၊
ချမ်းမြေ့စုံစီ၊ လုမ္ဗိနီ၌၊ မဟီလှိုက်ဆူ၊ ဖွားတော်မူသည်၊ နတ်လူအောင်မြို့ လမ်းပါကို။
[အမှာ။ ။ ဤကဗျာမျိုး၌ လေးလုံးတစ်ပါဒ စီကုံးခဲ့သောပါဒတို့၏ အကုန်နှင့် နောက်ဆုံးအချ ခုနစ်လုံးတစ်ပါဒ၏ကြား
တွင် ' ပုဒ်ကြီး/ ပုဒ်မ/ နှစ်ချောင်းပုဒ် ' နှစ်ချက်ရမြဲ ဖြစ်သည်ကိုလည်း သတိပြုပါ။]

**( နိယံ )** သံပေါက် တို, ရှည်၊ ဆုံးတုံပေ၊ သုံးလေ ' ပုဒ်ကြီး ' တည်း။

ဤ နိယံအရ သံပေါက်တို သံပေါက်ရှည်တို့ကို ရေးသားစီကုံးရာတွင်လည်း တစ်ပိုဒ်တစ်ပိုဒ် ဆုံးတိုင်းတို့မှာ 'ပုဒ်ကြီး/ ပုဒ်မ/ နှစ်ချောင်းပုဒ်' ချ၍ ရေးရသည်။

**ပုံစံ**

- အစ လေးလုံး၊ အလယ် သုံး၊ အဆုံး ငါးခုနစ်။
- နည်းနာ ဖွေထောက်၊ ရွေးစီကောက်၊ သံပေါက်ကဗျာဖြစ်။

ပေါရာဏ

**သံပေါက်ရှည်ပုံစံ**

- ညီညာ ထက္ကြ၊ ဆုံးမနာယူ၊ လာမူကြိုဆီး၊ ထံနီး လုပ်ကျွေး၊ သင်, တွေး, အံ, ရွတ်၊ တပည့်ဝတ်၊ မချွတ်ငါးခုသာ။

ယဉ်ကျေးမှုသင်ခန်းစာ၊ နှာ- ၄၉

**( နိယံ )** ကဗျာ ရှစ်လုံး၊ ဖွဲ့စီကုံး၊ ပြီးထုံး ' ပုဒ်ကြီး ' တည်း။

ဤ နိယံ အရ ရှစ်လုံးဖွဲ့ကဗျာ ရေးသားစီကုံးရာတွင် ရှစ်လုံးတစ်ပါဒဖြင့် လေးပါဒ ရေးမြဲ ဖြစ်၏၊ လေးခုမြောက် ဖြစ်သော ရှစ်လုံးဖွဲ့ပြီးဆုံးပြီဖြစ်သော ပုဒ်၏ အဆုံးတွင် ' ပုဒ်ကြီး/ပုဒ်မ/ နှစ်ချောင်းပုဒ်' ချ၍ ရေးသားရသည်။

**ပုံစံ**

- ရှုပ် ဤရုပ် ရေမြှုပ် သဏ္ဍာန်၊
အနိစ္စပဲ အမြဲ အမှန်၊
မကောင်းပဲမို့ ဆင်းရဲ ပူပန်၊
အနတ္တ မှတ်ကြ ဇဝကန်။

လယ်တီ ပဏ္ဍိတ

**( နိယံ )** ဒွေးချိုး, တြိချိုး၊ လေးချိုး ရေးထုံး၊ ချိုးပုဒ်ဆုံး၊ စွဲသုံး ' ပုဒ်ကြီး ' တည်း။

ဤနိယံအရ ဒွေးချိုး,တြိချိုး, လေးချိုး ကဗျာတို့ကို ရေးသားရာတွင် အချိုးပုဒ်တို့၏ အဆုံး၌ 'ပုဒ်ကြီး/ ပုဒ်မ/နှစ်ချောင်းပုဒ်' ချ၍ ရေးသားရသည်။

**- ဒွေးချိုး ပုံစံ -**

- ရိုးမပါ၊
သတ္တဝါငဲ့ နှစ်မျိုး။

- လိုလိုက်ရင် အပါယ်လမ်း၊
မြန်းလိမ့်မကိုး။

လယ်တီ ကေလာသ

- **တြိချိုး ပုံစံ** -

- စမွာယ်, ရင်ခတ်နှင့်၊
ဇလပ်ကယ် ထုံကြွယ်ကြွယ်၊
ထုပ်တဲ့ ဖက်ဝယ်။
- နံ့ဝတ်ကယ် လှိုင်မပြယ်၊
ကြိုင်လွယ်တဲ့ ပုံခင်း။
- ပညာရှင် သူတော်ကောင်းနှင့်၊
ပေါင်းဖော် စုံညီက၊
ဂုဏ်ဝသီ ကြော်ငြာပြေး၊
မွှေးလိမ့် သတင်း။ ။

ဓမ္မနီတိချိုး၊ စဉ့်ပါဆရာတော်

- **လေးချိုး ပုံစံ** -

- မေထုန်မှီ, အိပ်, စားလို့၊
ယောကျ်ားတဲ့ နွားမှာ။
- ပြည့်အစုံ ကုံလုံရှိပါ၏၊
သိပညာ တတ်တပါး၊
နွားထက် ပိုသာ။
- တတ်ပညာ ချို့ရှာချေက။
- လူမိုက်ခေါင် ထိုယောကျ်ားကို၊
နွားဟု ဆိုရ။ ။

(ဓမ္မနီတိချိုး၊ စဉ်ပါဆရာတော်)

**(နိယံ)** တေးတပ် မျိုးမှန်၊ ကဏ္ဍ သုံးခု၊ ဆုံးတုံမူ၊ သုံးပြု 'ပုဒ်ကြီး' တည်း။

ဤနိယံအရ တေးထပ်ကဗျာ ရေးသားစီကုံးရာတွင် ခြောက်ပါဒကို တစ်ကဏ္ဍ ထား၍ သုံးကဏ္ဍ ဆယ့်ရှစ်ပုဒ် ရေးမြဲ ဖြစ်၏။ ထိုသုံးကဏ္ဍတို့တွင် တစ်ကဏ္ဍ၏ အပြည့်ဖြစ်သော ခြောက်ခုမြောက်ပါဒတို့၏ အဆုံးတွင် 'ပုဒ်ကြီး/ပုဒ်မ/နှစ်ချောင်းပုဒ်' ချ၍ ရေးသားရသည်။

- **တေးထပ် ပုံစံ** -

- ငါးအာရုံ ဘင်အစု၊
ခင်မှုနှင့် နေကုန်၊
နင်ယခု မေ့ပုံလို၊
တွေ့မကြုံ စခန်း၊
ပါယ်လေးဝ သောကဘုံမှာ၊
မျောရရုံ ရှိတော့ ခမန်း။

- အောက်ဝီစိ သောင်းအင္ဂူမှာ၊
ခေါင်းမပြူ စတမ်း၊
နှစ်အရှည် နစ်မည့်လမ်းကိုလှ၊

နင်မြော်စမ်း နင့်ကိုယ်၊
ဒေသနာ ထင်အလင်းရယ်နှင့်၊
နင် အဖျင်း ပိုထက်သာပို။

- သည်လောဘ စရိုက်အိုကို၊
မလိုက်လို ရှောင်ပစ်လို့၊
နောင်အသစ် တကယ်ပြင်လျှင်၊
ကောင်းလိမ့် အစဉ်၊
ခွင့်သာခိုက်ကမှ မလိုက်ချင်လျှင်၊
အမိုက် နင့်ပြင် ရှိသေးလေလိမ့်လား။
* ခွင့်သာဆဲကမှ မခဲချင်လျှင်၊
အလွဲနင့်ပြင် ရှိသေးလေလိမ့်လား။
* ခွင့်သာတုံးကမှ မရုန်းချင်လျှင်၊
အရှုံးနင့်ပြင် ရှိသေးလေလိမ့်လား။ ။

လယ်တီ ဆရာတော်

[အမှာစကားချပ်။ ။ဤတေးထပ်၌ (*) ဤ အမှတ်ပြ အချိုးနှစ်ခုကို တေးထပ်ရိုး ဆယ့်ရှစ်ပိုဒ်ထက် ပို၍ အကွန့်ထည့်ထားသောကြောင့် အကွန့်ပိုဒ်များ ဟူ၍ မှတ်ပါလေ၊]

**(နိယံ)** မှတ်, ညွှန်း, ကြောင်းရာ၊ အမှာ, ခြွင်းချက်၊ ပြလျက်နောက်တွင်၊ 'ပုဒ်ကြီး'ပင်၊ အစဉ် နှစ်ချက်တည်း။

ဤနိယံအရ မှတ်ချက်- ဟူ၍လည်းကောင်း, ရည်ညွှန်းချက် ဟူ၍လည်းကောင်း, အကြောင်းအရာ ဟူ၍လည်းကောင်း,အမှာစကား-ဟူ၍လည်းကောင်း,ခြွင်းချက်-ဟူ၍လည်းကောင်း ပြဆိုရေးသားရန် ရှိခဲ့လျှင် ထိုပိုဒ်တို့နောက်မှ 'ပုဒ်ကြီး/ပုဒ်မ/ နှစ်ချောင်းပုဒ်' နှစ်ချက်ချ၍ ရေးသားရသည်။

## - မှတ်ချက် ပုံစံ -

[မှတ်ချက်။ ။ရဟန်း တစ်ပါးထက် များစွာသော ရဟန်းတို့မှာ အတူတကွ နေရာ၌ စောဒနာခြင်းသည်လည်း ဤနည်းတူသာ။]

ဝိနည်းမိုရ်သင်တန်းပို့ချချက်များ၊
ဝိနည်းကျမ်းဂန် ကျွမ်းကျင်မှု၊ နှာ-၆၈။

## - ရည်ညွှန်းချက် ပုံစံ -

[ရည်းညွှန်းချက်။ ။အခြေခံစည်းမျဉ်း အခန်း(၁) အမည်နှင့် အဓိပ္ပါယ် ဖော်ပြချက်။]
အပိုဒ်၊ [၂-(၄)၊ (၅)။ သံဃာ့အဖွဲ့အစည်း လုပ်ထုံးလုပ်နည်းများအခန်း(၇)နှင့်အခန်း(၈)။]

## - အကြောင်းအရာ ပုံစံ -

[အကြောင်းအရာ။ ။သံဃဝိနိစ္ဆယဌာနသို့ စေလွှတ်နိုင်သည့် စောဒက၊ သို့မဟုတ် စုဒိတက၏ တရားဝင် ကိုယ်စားလှယ် သတ်မှတ်ခြင်း။]

ညွှန်ကြားလွှာအမှတ်-၃၁။

## - အမှာစကားချပ် ပုံစံ -

[အမှာစကားချပ်။ ။အချို့သော ရာဇဝင်မှာ တောကစားရာ ဝက်ကြီးနှင့် တွေ့သည်ဟု ဆိုလေသည်။]

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၁၆။

- ခြွင်းချက်။ ။ကျေးရွာအုပ်စု ဖြစ်ခဲ့သော် မြို့နယ် သာသနာရေးမှူး တက်ရောက်ရန် မလိုပါ။]

ဝိနည်းမိုရ်သင်တန်း လုပ်ထုံးလုပ်နည်းများ ရှင်းလင်းချက်၊ နှာ၊ ၁၅။

**-ရှင်းလင်းချက်ပုံစံ-**

[ရှင်းလင်းချက်။ ။ဝိနိစ္ဆယ ခုံဖွဲ့ရာ၌ ဂိုဏ်းတူဖြစ်လျှင် ခုံဝိနည်းဓိုရ်ဆရာတော်နှင့် ကြားခုံဝိနည်းဓိုရ် ဆရာတော် အားလုံးတို့ ဂိုဏ်းဝင်ထဲမှ ရွေးပါ။]

ဝိနည်းဓိုရ်သင်တန်းလုပ်ထုံးလုပ်နည်းများ

ရှင်းလင်းချက်၊ နှာ-၃၉။

**(နိယံ)** ခေါင်းစီး, ထိစီး၊ ရေးဆုံးပြီး၊'ပုဒ်သေး, ပုဒ်ကြီး' မချတည်း။

ဤနိယံအရ မိမိရေးသော စာ၏အကြောင်းအရာကိုသိမြင်လွယ်စေရန် အထက်မှ ခေါင်းစာတန်းဖြင့် အကျဉ်းဖော်ပြရာတွင်လည်းကောင်း, အစိတ်စိတ်သောအကြောင်းအရာကို သိမြင်လွယ်စေရန် သူကဏ္ဍနှင့်သူ ထိပ်စီးစာဖြင့် အကျဉ်းဖော်ပြရာတွင်လည်းကောင်း ခေါင်းစီးစာ, ထိပ်စီးစာတို့၏ အဆုံး၌ 'ပုဒ်သေး,ပုဒ်ကြီး' သုံးစွဲခြင်း မပြုရချေ။

**-ခေါင်းစီး စာတန်းပုံစံ-**

**သရေခေတ္တရာမင်းဆက်**

ထိုသို့ ဗျာဒိတ်ထားတော်မူခဲ့သည်နှင့်အညီ သရေခေတ္တရာပြည်၌ ဖြစ်သာ အကြောင်းကားဤသို့တည်း

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၁၆။

**-ထိပ်စီးစာတန်းပုံစံ-**

မဇ္ဈိမဒေသ၌ မင်းဆက်အစဉ်ကို ပြပြီး၍ ယခုအခါ မြန်မာနိုင်ငံ၌ဖြစ်သော မင်းဆက်ရာဇဝင်ကို ဆိုပေအံ့၊ မဇ္ဈိမတိုက်၏ အရှေ့တောင်ယွန်း သာဝတ္ထိပြည်မှ ယူဇနာတစ်ရာ့နှစ်ဆယ်ကွာသော သုနာပရန္တတိုင်း ဝါဏိဇရွာ၌ မဟာပုဏ္ဏမထေရ်-----

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၁၄။

**ပုဒ်ကြီး အကြောင်း ပြီးပြီ။**

---------

## ၄။ တုံးတို အကြောင်း အကျယ်

**(နိယံ)** ရှေ့ နောက် တည်ငြား၊ ပုဒ်နှစ်ပါးမှ၊ စကားလွဲဆို၊ မရောလို၊ 'တုံးတို'ချလေမြဲ။

ဤနိယံအရ ရှေ့ပုဒ်နှင့်နောက်ပုဒ်တို့ကို ရောယှက်မှု မရှိစေလိုရာ, မရောနှောစေလိုရာတွင် 'တုံးတို'ခြား၍ ရေးထားရသည်

**-ပုံစံ-**

- ချစ်သမီး-မျောက်မြီးဘူးကို ရေ၌နစ်ပြီးလျှင် ထိုဘူးစက်ရေကို ကျဉ်တောက်ဖြင့်ခံ၍ ရေပြည့်မှလာခဲ့။

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၁၇။

**-တစ်နည်းပုံစံ--**

ကုက္ကိုရ်ပင်, ဆင်ကျုံး, မော်ကွန်း, သရပါတံခါး, ရတနဂူ-သည်ငါးဌာနကို တပြိုင်နက်တည်ရာတွင်မှ-----

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၂၁၆။

[အမှာစကားချပ်။ ။ဤ ပုံစံ နှစ်ခု၌'ချစ်သမီးမျောက်' ဟူ၍လည်းကောင်း,'ရတနဂူသည်'ဟူ၍လည်းကောင်း တွဲစပ်ရောယှက်မည်စိုး၍ 'တုံးတို'ချလျက် ရေးသားရသည်။]

**(နိယံ)** ရှေ့နောက် နှစ်လီ၊ မတူညီ၊ လယ်ဆီ 'တုံးတို'ချလေမြဲ။

ဤနိယံအရ ရှေ့နှင့်နောက် မတူညီကြသော စကားစုံများဖြစ်ခဲ့အံ့၊ အလယ်တွင် 'တုံးတို'ချ၍ရေးသားရလေသည်။

ပြည်-ရန်ကုန် အမြန်ရထား

မန္တလေး-မုံရွာ အမြန်ယာဉ်

မုံရွာ-ကလေး အမြန်ယာဉ်

**(နိယံ)** ဂဏန်းရှေ့သွား၊ စာနောက်ထား၍၊ ရေးသားတုံမြောက်၊ ဂဏန်းနောက်၊ မဖောက်'တုံးတို'ချစမြဲ။

ဤနိယံအရ ဂဏန်းကိုရှေ့၊ စာကိုနောက်ထား၍ တစ်ဆက်တည်းရေးခဲ့လျှင် ဂဏန်း၏နောက်တွင်'တုံးတို'ချ၍ ရေးသားရသည် ။

**-ပုံစံ-**

၉၈-လမ်း၊ ရန်ကုန်မြို့

၁၃၄၇-ခုနှစ်၊ ဝါဆိုလဆန်း-၉-ရက်

၁၉၈၅-ခုနှစ်၊ ဇန်နဝါရီလ-၇-ရက်

**(နိယံ)** အနက်ပေးရာ ၊ ပါဠိနောက်တွင်၊ 'တုံးတို' ပင်၊ အစဉ် ချစမြဲ။

ဤနိယံအရ ပါဠိအနက်ပေး၍ နိဿယရေးနည်း ရေးကြရာတွင် ပါဠိနောက်၌(ဟိုက်ဖင်) ခေါ် 'တုံးဝက်' ချပြီး ရေးသားရသည်။ ဤ၌ 'တုံးဝက်'ကိုပင် 'တုံးတို'ဟု သုံးစွဲခဲ့သည်။

**-ပုံစံ-**

တသ္မာ-ထို့ကြောင့်၊ အမှံ-ရသော-ငါတို့သခင်ဘဝရှင် မင်းတရားကြီး၏၊ အနုယောဂံ-တိုက်တွန်းခြင်းကို----။

တွင်းသင်း၊ မြန်၊ သစ်၊ နှာ-၂။

**(နိယံ)** ဝေါဟာ မကုန်၊ စာကြောင်းကုန်၊ တစ်ဖုံ 'တုံးတို' ချစမြဲ။

ဤနိယံအရ မိမိအလိုရှိရာ စာကို ရေးနေစဉ်တွင် ပါဠိဝေါဟာရဖြစ်စေ, မြန်မာဝေါဟာရဖြစ်စေ အပြီးအဆုံးသို့ မရောက်မီ စာကြောင်းကုန်ဆုံး၍ ရှေ့စာကြောင်းတွင် တစ်ချို့တစ်ဝက် နောက်စာကြောင်းတွင် တချို့တစ်ဝက် ဖြစ်နေခဲ့လျှင် ရှေ့စာကြောင်း၏အဆုံး၌ 'တုံးတို'ချ၍ ရေးသားရသည်။

**-ပါဠိဝေါဟာရပုံစံ-**

ပရမာသမ္ဗောဓိပတ္တာ ပဝတ္တိတဝရ ဓမ္မစက္ကော ရာဇဂဟံ ပတွာ ဝေဠုဝနဝိဟာရေ-----

ငယ်၊ လက်ာနှင့် စကားပြေ၊ နှာ-၃၃။

**- မြန်မာဝေါဟာရပုံစံ-**

၁၁၇၉-ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် (၈)ရက်၊ ကြာသပတေးနေ့တွင် ဖွားမြင်သည်။

ငယ်၊ လက်ာနှင့်စကားပြေ၊ နှာ-၁၅။

**(နိယံ)** မိတ္တူပို့ရာ၊ ဖြန့်ဝေရာ၊ ရှေ့မှာ'တုံးတို' ချစမြဲ။

ဤနိယံအရ စာမိတ္တူပို့ခြင်း, ဖြန့်ဝေခြင်းတို့ကိုပြုလုပ်ရာ၌ပေးပို့, ဖြန့်ဝေရာဌာနတို့ကို ဖော်ပြရာ စာကြောင်း၏ အစတိုင်းတွင် 'တုံးတို' ကို အသုံးပြုရေးသားရသည်။

**-မိတ္တူပုံစံ-**

**မိတ္တူကို-**

- ဝန်ကြီး၊ ပြည်ထဲရေးနှင့်သာသနာရေး ဝန်ကြီးဌာန၊ ဝန်ကြီးရုံး။
- ပြည်နယ်၊ တိုင်း ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့များအားလုံး။
- မြို့နယ်ပြည်သူ့ကောင်စီ အလုပ်အမှုဆောင်အဖွဲ့များအားလုံး။
- ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးဌာန။
- ပြည်နယ်၊ တိုင်း သာသနာရေးမှူးများ အားလုံး။
- မြို့နယ် သာသနာရေးမှူးများ အားလုံး။

**-ဖြန့်ဝေခြင်းပုံစံ-**

**ဖြန့်ဝေခြင်း-**

- ပြည်နယ်/ တိုင်း သံဃနာယကအဖွဲ့များ အားလုံး။
- မြို့နယ် သံဃနာယကအဖွဲ့များ အားလုံး။

- ပြည်နယ်/ တိုင်း ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့များ အားလုံး။
- မြို့နယ် ပြည်သူ့ကောင်စီ အလုပ်အမှုဆောင် အဖွဲ့များအားလုံး။
- ပြည်နယ်/တိုင်း သာသနာရေးမှူးများ အားလုံး။
- မြို့နယ် သာသနာရေးမှူးများ အားလုံး။

**(နိယံ)** သင်္ချေ သရုပ်၊ ရေးစီထုတ်၊ သရုပ်ရှေ့မှာ၊ 'တုံးရှည်' သာ။

ဤ နိယံအရ ရှေ့တွင် အရာဝတ္ထုတို့၏ အရေအတွက်ကို ပြဆိုပြီး၍ ထိုအရေအတွက် သင်္ချာ၏ သရုပ် သင်္ချေကို ပြဆိုလိုလျှင်လည်း သရုပ်သင်္ချေ၏ ရှေ့တွင် 'တုံးရှည်'ကို အသုံးပြုရေးသားရသည်။

**- ပုံစံ -**

ပရိက္ခရာရှစ်ပါးကား-- ကိုယ်ဝတ်, ဒုကုဋ်, သင်းပိုင်, ခါးပန်း, အပ်, ပဲကွပ်, သပိတ်, ရေစစ်-ဤရှစ်ပါးတည်း။

**(နိယံ)** အဓိပ္ပါယ်ကို၊ ပြန်ဆိုရာဝယ်၊ အဓိပ္ပါယ် နောက်မှာ၊ 'တုံးရှည်'သာ။

ဤနိယံအရ ပါဠိဘာသာကိုဖြစ်စေ, လင်္ကာကဗျာကိုဖြစ်စေ, ပေါရာဏ ဝေါဟာရကိုဖြစ်စေ ဆိုလိုရင်း/ အဓိပ္ပါယ်ကို ပြန်ဆိုရာ၌ ဆိုလိုရင်း/ အဓိပ္ပါယ် ဟူသော ရှေ့ပုဒ်တို့နောက်တွင် 'တုံးရှည်' ကို အသုံးပြု၍ ရေးသားရသည်။

**- ပုံစံ -**

- ကော ဝါ တွံ ကဿ ဝါ ပုတ္တော၊
ကထံ ဇာနမု တံ မယံ၊
ပိတုနာ အတ္တနာ စာပိ၊
နာမဂေါတ္တံ ပဝေဒယ။

ဟူသော ဂါထာကို ဆို၏။

**အဓိပ္ပါယ်ကား**-' အို-လုလင်၊ သင်ကား အဘယ်သူ၏သားနည်း? အသို့မူ သင်ကိုငါတို့ သိရကုန်အံ့နည်း? အမိ, အဘ၏လည်းကောင်း မိမိ၏လည်းကောင်း အမျိုးအမည်ကို ကြားသိလော့' ဟုဆို၏။

အခြေပြု မြန်မာစာ၊ နှာ-၃၉။

[မှတ်ချက်။ ။ဤပုံစံ၌ အဓိပ္ပါယ်ကား ဟူသည်'ကော ဝါ တွံ' စသော ဂါထာ၏ ဆိုလိုရင်း အဓိပ္ပါယ်ကို ပြန်ဆိုရေးသားထားခြင်း ဖြစ်သည်။ 'အဓိပ္ပါယ်' နှင့် 'ဆိုလိုရင်း' ဟူသော စကားနှစ်ရပ် အတူတူပဟုမှတ်ပါ။ 'အဓိပ္ပါယ်'ကား ဟူသော နေရာတွင် 'ဆိုလိုရင်းကား' ဟုလည်း ရေးသားသုံးစွဲနိုင်သည် မှတ်ပါ။]

**(နိယံ)** ပမာ,ပမေ၊ ဆင်လေ တန်ဆာ၊ ရေးသောခါတွင်၊ ဥပမာနောက်မှာ 'တုံးရှည်'သာ။

ဤ နိယံအရ ဥပမာ, ဥပမေယျ တို့ဖြင့် တန်ဆာဆင်၍ ရေးသားရာတွင် 'ဥပမာကား'ဟူသော ပုဒ်နောက်တွင် 'တုံးရှည်' ကိုအသုံးပြုရေးသားရသည်။

**- ပုံစံ -**

**ဥပမာကား**- လမ်းခရီးကြီး တစ်ခု၌ ဆေးဝါ,ဆေးနီ အကန့်အကန့် ဆိုးသော ယမ်းစနက် ကြိုးတန်းကြီးကို သွယ်တန်း မြှုပ်ထားရာ၏။

လယ်တီဆရာတော်၊ ဘာဝနာဒီပနီ၊
စာမျက်နှာ- ၇၁။

**(နိယံ)** ဝါကျဆုံးလျက်၊ ဆက်ရန် စကား၊ ရှိတုံငြား၊ ချထားမှန်စွာ၊ 'ထုံးရှည်'သာ။

ဤနိယံအရ ရှေ့၌ ဆိုအပ်ခဲ့ပြီးသော ဝါကျသည် အဆုံးသို့ရောက်ခဲ့လေပြီ၊ သို့သော်လည်း ဆက်ရန် စကားတို့ကား ကြွင်းကျန်လျက်ပင် ရှိပေးသေး၏၊ သို့ဖြစ်ခဲ့လျှင် ရှေ့ဝါကျ၏ အဆုံး၌ 'တုံးရှည်' ကိုအသုံးပြု ရေးသားရသည်။

**- ပုံစံ -**

ဖော်ပြပါ ပြည်နယ်/ တိုင်းများ၌ မိမိ အခြေခံဒေသမှ နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် ဆရာတော်များဖြင့်

ဖွဲ့စည်း၍ ဆောင်ရွက်ရန် ဖြစ်သည်-

(က) ပဲခူးတိုင်း
(ခ ) မကွေးတိုင်း
(ဂ ) မန္တလေးတိုင်း
(ဃ) မွန်ပြည်နယ်
(င ) ရန်ကုန်တိုင်း
(စ ) ဧရာဝတီတိုင်း

ညွှန်ကြားလွှာအမှတ်-၁။

**တုံးရှည် အကြောင်း ပြီးပြီ၊**

-------------

## ၆၊ အောက်မျဉ်း အကြောင်း အကျယ်

**(နိယံ)** ထူးသတိပြု၊ ကြည့်ရှုစေချင်၊ စာပိုဒ်တွင်၊ ထင်ထင် 'အောက်မျဉ်း' ဆွဲ။

ဤနိယံအရ စာဖတ်သူတို့ အထူးသတိပြု၍ ဖတ်ရှုစေချင်သောစကားစု/ စာပိုဒ်စုတို့ကို 'အောက်မျဉ်း' ချထား၍ ရေးသားရသည်။

**- ပုံစံ -**

ယခုအခါ မြန်မာစာသည် သင်ကြားမှု မထွန်းကားစာ ဖြစ်လာပြီ၊ ထို့ကြောင့် မြန်မာစာညံ့ခြင်းသည် ဘာသာစုံညံ့ရန် အကြောင်းကြီး ဖြစ်သည်။

မြန်မာစာ ဋီကာ၊ စာ-၆၀၃
ဦးသိန်းနိုင် (ဝိဇ္ဇာ)

[မှတ်ချက်။ ။ ဤ အောက်မျဉ်းကို လက်နှိပ်စက်ဖြင့် ရိုက်နှိပ်သောအခါ ခေါင်းစီးစာတန်း, ထိပ်စီးစာ စသည်တို့၌ သုံးစွဲလေ့ရှိကြ၏၊ ပုံနှိပ်စာတို့၌ အထူးသတိပြုစေလိုရာ- ခေါင်းစီး, ထိပ်စီး ပြလိုရာ၌ စာခေါင်းမည်းတို့ဖြင့်လည်းကောင်း, ထူးခြားသော ပွိုင့်စာလုံးတို့ဖြင့်လည်းကောင်း ဖော်ပြလေ့ရှိသည်၊ အောက်မျဉ်းသုံးစွဲမှု နည်းပါးခဲ့လေပြီ။]

**အောက်မျဉ်း အကြောင်းပြီးပြီ၊**

--------

## ၇၊ ပုဒ်ကန့်အကြောင်း အကျယ်

**( နိယံ )** သရုပ်, သင်္ချေ၊ ရေတွက်လေရာ၊ ထိုအခါ၊ ချပါ "ပုဒ်ကန့်" တည်း။

ဤ နိယံ အရ သရုပ်, သင်္ချေတို့ကို ရေတွက်ဖော်ပြရာတွင် တစ်ခုနှင့်တစ်ခုအကြား ကွဲပြားအောင် "ပုဒ်ကန့်" ကို ထည့်သွင်း ရေးသားရသည်။

**-- ပုံစံ --**

ပုဂံပြည်တွင် သမုဒ္ဒရာဇ်, နော်ရထာမင်းစော, ကျစ္စာဟု သုံးကြိမ်၊ ပျူမင်းထီး, သေလည်ကြောင်, ထီးလှိုင်ရှင်ဟု သုံးကြိမ်၊ စလေငခွေး, ကုလားကျ, နရပတေ့ ဟုသုံးကြိမ်၊ ထိုမင်းတို့ကား တစ်ယောက်တစ်ယောက်သည် သုံးကြိမ်စီ ဖြစ်လာကြသော ဟူ၏။

တွင်းသင်း၊ မြန်၊ သစ်၊ နှာ- ၁၆၂။

**- တစ်နည်း ပုံစံ -**

စက်, သော, ဃာ, ဇီ၊ ကာ -ကိုမှီ၊ ငါးလီ ဝိညာဏ်မှတ်။
လယ်တီ ပရမတ္ထ သံခိပ်။

**( နိယံ )** သင်္ချာကိန်းများ၊ သုံးလိုငြားက၊ ငါးလုံးတစ်ဖြာ၊ သုံးလုံးမှာ၊ ထားပါ "ပုဒ်ကန့်" တည်း။

ဤ နိယံ အရ သင်္ချာကိန်းဂဏန်းတို့ကို ရေးသားရာတွင်-ကိန်းများ, ကိန်းကြီးသော သင်္ချာကို ရေးသွင်းရာတွင်-

(က) ကုဋေ, ကုဋေကျော်သော ကိန်းဂဏန်းတို့ကို ရေးခဲ့လျှင် နောက်ဆုံး ကိန်းဂဏန်းမှစ၍ ရေတွက်ပြီး

ငါးလုံးတွင် တစ်ချက် သုံးလုံးတွင်တစ်ချက် " ပုဒ်ကန့် "ချ၍ ရေးသားရာသည်။

**- ပုံစံ -**

- ၁, ၁၀၀, ၀၀၀၀၀ ( တစ်ဆယ့် တစ်ကုဋေ )
- ၄၅,၁၀၀,၀၀၀၀၀(လေးရာ့, ငါးဆယ်, တစ်ကုဋေ)

(ခ)ကုဋေအောက်လျှော့သော ငယ်သောကိန်းဂဏန်းတို့ကို ရေးလျှင် ခုကိန်းဂဏန်းမှစ၍ ရေတွက်ပြီး သုံးလုံးတစ်ချက်စီ 'ပုဒ်ကန့်' ချ၍ရေးရသည်။

**-ပုံစံ -**

- ၁, ၀၀၀, ၀၀၀ (တစ်သန်း)
- ၁၀၀, ၀၀၀ (တစ်သိန်း)
- ၄,၅၀၀, ၀၀၀ (လေးသန်း ငါးသိန်း)

**(နိယံ)** ထက် အောက် စဉ်ခါ၊ ကိန်းသင်္ချာကို၊ ဆုတ်ခါမြင့်တင်၊ ရေးလိုလျှင်၊ ဝင်လေ'ပုဒ်ကန့်'တည်း။

ဤနိယံအရ ကိန်းသင်္ချာကို အစဉ်အတိုင်း အများမှအနည်းသို့လည်းကောင်း, အနည်းမှအများသို့လည်းကောင်း ဆုတ်ခါတက်ခါ ရေးလိုလျှင် 'ပုဒ်ကန့်' ကိုချ၍ရေးသားရသည်။

**- အများမှ အနည်းသို့ ဆုပ်ပုံ -**

**-ပုံစံ -**

ကျွန်ုပ်အား အသပြာတစ်ထောင်ဖြစ်စေ, တစ်ရာဖြစ်စေ, တစ်ဆယ်ဖြစ်စေ ပေးပါလော။

**- အနည်းမှအများသို့တက်ပုံ -**

**-ပုံစံ -**

ဤဟိမဝန္တာ ကျယ်စွာသောတော၌အထောင်, အသောင်း, အသိန်း, အသန်းမကသော သားရဲတို့သည် အကယ်၍ ရှိကုန်အံ့။

မူလတန်း၊ မြန်မာစာ၊ နှာ-၇၃။

**(နိယံ)** မျိုးတူမည်ကွဲ၊ တစ်ကြောင်းတည်း၌၊ တွဲစပ်ရေးလျှင်၊ ဝင်လေ'ပုဒ်ကန့်'တည်း။

ဤနိယံအရ လူပုဂ္ဂိုလ်, တိရစ္ဆာန်, အချိန်ကာလ, အရပ်မျက်နှာ, သစ်ပင်, သစ်သီးစသောအမျိုးတူ၍ အမည်ကွဲများကို နံပါတ်စဉ်ခါ အကြောင်းခွဲ မရေးဘဲ တစ်ကြောင်းတည်း ဆက်စပ်ရေးသားလိုလျှင် 'ပုဒ်ကန့်' ချ၍ရေးသားရသည်။

**-လူပုဂ္ဂိုလ် အမျိုးတူ အမည်ကွဲ-**

**-ပုံစံ -**

အကြွင်မင်းမျိုး, ပုဏ္ဏားမျိုး, သူဌေးမျိုး, သူကြွယ်မျိုးစသော သူတို့သည်။

မူလတန်း၊ မြန်မာစာ၊ နှာ-၂၅။

**-တိရစ္ဆာန်အမျိုးတူအမည်ကွဲ-**

**-ပုံစံ -**

ခြင်္သေ့, ကျား, သစ်, ဝံ, အောင်း, ကြံ့, ဆင်, စိုင်, ပြောင်, တောကြောင်, ဝက်ဝံ အစရှိသော သားရဲတို့ကို လည်းကောင်း-

မူလတန်း၊ မြန်မာစာ၊ နှာ-၂၅

**-အချိန်ကာလ အမျိုးတူ အမည်ကွဲ-**

**-ပုံစံ -**

ချစ်သား- ငါတို့သည် ယနေ့လည်းကောင်း, နက်ဖြန်လည်းကောင်း, သန်ဘက်ခါလည်းကာင်း သေခြင်းသို့

ရောက်ကုန်အံ့။

မူလတန်း၊ မြန်မာစာ၊ နှာ-၁၁။

## - အရပ်မျက်နှာ အမျိုးတူအမည်ကွဲ -

**-ပုံစံ -**

အရှေ့အရပ်၌လည်းကောင်း, အနောက်အရပ်၌လည်းကောင်း, တောင်အရပ်၌လည်းကောင်း, မြောက်အရပ်၌လည်းကောင်းနေကြကုန်သော သူတို့သည်။

## -သစ်ပင်အမျိုးတူအမည်ကွဲ -

**-ပုံစံ -**

အသီးနှင့်ပြည့်စုံသော သစ်မည်စည်, တည်, လွှန်, သရက်, ပိန္နဲ, ငှက်ပျော စသာအထူးထူးအပြားပြား များစွာသော သစ်သီးမျိုးတို့ကိုလည်းကောင်း။

မူလတန်း၊ မြန်မာစာ၊ နှာ-၂၅။

## - သစ်သီးအမျိုးတူအမည်ကွဲ -

**-ပုံစံ -**

အရှင်မင်းကြီး----တည်သီး, လွှန်သီး,သစ်မည်စည်သီး ,ထောက်ရှာသီး, သရက်ဖြူသီး ပျားစွဲအရသာနှင့်တူကုန်၏။

## -ပန်းအမျိုး တူ အမည်ကွဲ -

**-ပုံစံ -**

အထူးထူးသော အဆင်းအနံ့ရှိသော မဟာလှေကား, စကား, ကံ့ကော်, စွယ်တော်, ရင်းမာ, ဇလပ်, ခတ္တာ, ချရား, ဆပ်သွား, ပုန်းညက်, သရဖီ, သဇင် အစရှိသော ပန်းတို့ဖြင့်----

မူလတန်း၊ မြန်မာစာ၊ နှာ-၅၀။

## -နေရာအဆောက်အအုံ အမျိုးတူအမည်ကွဲ -

**-ပုံစံ -**

ထိုသခ်န်း၌ လေညှင်းခံ, ကမ္မဋ္ဌာန်းရှုရာ သမာပတ်ဝင်စားရာ စသောညဥ့်သန့်စင်ရာ, နေ့သန့်စင်ရာ, တိုက်ခန်းပြတင်း လေသာ, စမုတ်, တပြင်ကျယ်, ကုဋီတို့ကိုလည်းကောင်း-------

မူလတန်း၊ မြန်မာစာ၊ နှာ-၂၅။

[အမှာစကား။ ။ဤအခန်းသည် အဆင်တန်ဆာ,အသုံးအဆောင်, စားဖွယ်သောက်ဖွယ် စသည်ဖြင့် အလွန်များပြား ကျယ်ဝန်းလှ၏၊ ဉာဏ်ဖြင့်စိစစ်မြော်မြင်၍ သိကြပါကုန်။]

**ပုဒ်ကန့်အကြောင်းပြီးပြီ။**

---------

## ၈။ မီးပြကြီးအကြောင်း အကျယ်

“ ” ဤအမှတ်သင်္ကေတ အင်္ဂလိပ်ဝေါဟာရဖြင့် အင်ဗားတက်ကော်မာဟု ခေါ်ဆိုထားသည်။ သတိပြုဖွယ်နောက်တွင်‘ ’ဟူသောအမှတ်သင်္ကေတကိုဆိုဖွယ်ရှိ၍ “ ” ကိုအင်ဗားတက်ကော်မာကြီး၊ ‘ ’ ကို အင်ဗားတက်ကော်မာလေး ဟု အသိအမှတ်ပြုထားကြသည်။

ဤစာစောင်တွင် “ ”ကိုမီးပြကြီး ‘ ’ကိုမီးပြကလေးဟု ခေါ်လွယ်ပြောလွယ် ဝေါဟာရသစ်တီထွင်သုံးစွဲထားသည်။

အဘယ့်ကြောင့် မီးပြကြီး,မီးပြကလေးခေါ်ရသနည်းဟု မေးခဲ့ပါမူ ညဥ့်အခါ၌ ပင်လယ်ရေကြောင်းခရီး-ကောင်းကင်လေကြောင်းခရီးတို့၌ သွားလာကြသော သင်္ဘော-လေယာဉ်တို့ကို ဤနေရာ၌ကျောက်ဆောင်ရှိသည်၊ ဤနေရာ၌ မျော်စဉ်စေတီဘုရားရှိသည်။ သိရှိခါစက်ရှိန်ကို တိုးမြှင့်တန်လျှင်တိုး၊ လျှော့တန်လျှင်လျှော့၊ ရှောင်တိမ်း

ခုတ်မောင်းသင့်တန်လျှင် ရှောင်တိမ်းခုတ်မောင်းနိုင်ကြရန် သတိရှိဖို့ မီးဖြင့်ပြထားသည်ကို မီးပြဟုဆိုသည်၊ ထိုမီးပြကိုမြင်လျှင် သတိပြု၍ ခုတ်မောင်းသွားရသည်။

ဤနည်းတူ" "ကိုလည်းကောင်း' 'ကိုလည်းကောင်း မြင်တွေ့လျှင် "ဤနေရာ၌ အာကာရ ဝါကျရှိသည်- ဤနေရာ၌ စကားပြောပုံ အကြံဖြစ်ပုံ ပြသောစကားဝါကျရှိသည်" ဟုစာဖတ်သူတို့သိရှိရန် သတိပြုရန် ပြဠွန်းထားရကား- မီးပြနှင့်တူသောကြောင့် "မီးပြကြီး၊ မီးပြကလေး" ဟုဝေါဟာရသစ် တီထွင်ခဲ့ပေသည်ဟူ၍ ဖြေဆိုရပေသည်။ ခေါ်ဝေါ်၍လည်းလွယ် အဓိပ္ပါယ်လည်းသက်ရောက်ရကား သင့်လျ-ဟု ထင်မြင်မိပေသည်။

လွန်ခဲ့သော ကာလကား မြန်မာဆရာတို့ကလည်း " " ကို မျက်တောင်ကြီး အဖွင့် အပိတ် ' ' ကို မျက်တောင်လေး အဖွင့် အပိတ်ဟု ဝေါဟာရ တီထွင်ထားကြသည်၊ အဘယ့်ကြောင့် ဤသို့ခေါ်ဝေါ်ကြသနည်းဟု လေ့လာကြည့်ရာ " "နှင့် ' ' တို့သည် မျက်တောင်ကလေးများနှင့် တူ၍ ခေါ်ဝေါ်ကြသည်ကိုသိရသည်၊ သဒ်ိသူပစာအားဖြင့် ကောင်းလှ၏၊ သို့သော် အဓိပ္ပါယ်အားဖြင့်ကား မဆီလျော် မသက်ဆိုင်၊ ဝေးကွာလှ၏၊ ဝေါ်ခေါ်ရာတွင်လည်း စကားပြေပြစ်မှုမရှိ၊ ထောင့်နေသည်ကို သတိပြုမိသည်။

**(နိယံ)** ပြောဟန်, ဆိုဟန်၊ ပြဆိုပြန်၊ ထည့်ရန် " မီးပြကြီး" ။

ဤနိယံအရ ဝါကျတစ်ခု၏အတွင်း၌ ဇာတ်ကောင်တစ်ဦးတစ်ယောက်၏ ပြောပုံပြောဟန် (အာကာရ) အခြင်းအရာကို ထည့်သွင်းဖော်ပြရာ၌ " မီးပြကြီး" ဖြင့် ဖော်ပြရေးသားရသည်။

**- ပုံစံ -**

မင်းချင်း ယောကျ်ားတို့သည် "မကြောက်ကြကုန်လင့်၊ မြတ်စွာဘုရားသည် ဘေးမရှိသည်ကို ပြုအပ်၏" ဟူ၍ အလုံးစုံသောသူတို့ကို ပြောကြားကုန်၏။

သံယုတ္တ၊ ၄၊ ပ၊ နှာ-၃၀၇။

**- တစ်နည်းပုံစံ -**

အမိ,အဘတို့အား ရိုသေစွာ ရှိခိုးလျက် " အို- မိခင်, ဖခင်တို့---အကျွန်ုပ်သည် မြတ်စွာဘုရား၏ အထံတော်၌ ရဟန်းပြုပါအံ့" ဟု ဆို၏။

မူလတန်း၊ မြန်မာစာ၊ နှာ-၁၀။

**(နိယံ)** အကြံဖြစ်ဟန်၊ ရေးလိုပြန်၊ ထည့်ရန်" မီးပြကြီး"။

ဤနိယံအရ ဝါကျတစ်ခု အတွင်း၌ ဇာတ်ကောင်တစ်ဦးတစ်ယောက်၏ အကြံဖြစ်ပုံဖြစ်ဟန်(အာကာရ) အခြင်းအရာကိုထည့်သွင်း ဖော်ပြလိုရာ၌ "မီးပြကြီး" ဖြင့် ဖော်ပြရေးသားရာသည်။

**- ပုံစံ -**

ထိုအခါ "ငါသည် သားတော်ကို ယူ၍ ကြည့်ပြန်သော် ယသော်မိဖုရားနိုး၍ အားကြိုးရည်ဆောင်သော ငါ၏ တောထွက်အံ့သော အကြံသည် မမြောက်ရှိချေတော့မည်" ဟု ကြံ၍----

ငယ်တန်း၊ မြန်မာစာ၊ နှာ-၁၇

**- တစ်နည်းပုံစံ -**

သူဌေးသား၏ အမိ,အဘ တို့သည် " ငါတို့ သားကို အကယ်၍ ခွင့်မပြုချေအံ့၊ ဤ အရပ်၌ပင် သေခြင်းသို့ ရောက်ခဲ့ရာ၏၊ တစ်ဖန် ငါတို့သည် မမြင်ရကုန်ပြီ၊ ရဟန်းပြုလတ်သော်မူကား-တစ်ဖန် ငါတို့မြင်ကြရကုန်အံ့" ဟူ ကြံ၍----

မူလတန်း၊ မြန်မာစာ၊ နှာ-၁၁။

*    *    *

## ၉။ မီးပြကလေး အကြောင်းအကျယ်

(နိယံ) တစ်ဆင့်ပြောဟန်၊ကြဲစည် ဟန်ကို၊ ရေးရန် ကြံက၊ 'မီးပြကြီး' အတွင်း၊ 'မီးပြကလေး' ကိုသွင်း။

ဤနိယံအရ တစ်ဦးတစ်ယောက်သောဇာတ်ကောင်သည် မိမိပြောဆိုနေသော စကား(အာကာရ ဝါကျကြီး) အတွင်းတွင် သူတစ်ပါးက ပြောဆိုဟန် တစ်ဆင့်စကား (အာကာရ ဝါကျကလေး) ထည့်သွင်းပြောဆိုပုံကိုလည်း ကောင်း, အကြံဖြစ်ပုံကိုလည်းကောင်း ထည့်သွင်းရေးသားလိုလျှင် မိမိပြောဆိုပုံ စကားဝါကျကြီးကို "မီးပြကြီး" ဖြင့် ဖော်ပြရမည်၊ မိမိ၏ စကားဝါကျကြီးအတွင်းဝင်သော သူတစ်ပါးပြောဆိုပုံ, အကြံဖြစ်ပုံပြစကား ဝါကျကလေးကို 'မီးပြကလေး' ဖြင့် ထည့်သွင်းရေးသားရမည်၊ ပိဋကတ်စာပေ စကားဖြင့်မူကား အာကာရကြီးအတွင်း အာကာရလေး ငုပ်နေသည်ဟု ဆိုသည်။

### - တစ်ဆင့် စကားပြောပုံ -

### - ပုံစံ -

ရဟန်းအပေါင်းတို့က "သိကြားမင်းသည် မျက်နှာကြီးငယ် ရွေးချယ်ကြည့်ရှု ပူဇော်ခြင်းကို ပြုဘိသည်၊ ကြွင်းကုန်သော မဟာသာဝကတို့အား ဤမျှလောက်သဘောရှိသော ပူဇော်သက္ကာကို မပြုမူ၍ အရှင်မဟာကစ္စည်း မထေရ်ကို မြင်တည့်လျှင် လျင်မြန်သော အဟုန်ဖြင့် ဖမျက်တို့၌ ကိုင်ယူသုံးသပ်၍ 'တပည့်တော်၏ အရှင်ဖြစ်သော အရှင်မြတ်၏ ကြွလာတော်မူခြင်းသည်ကား သြော်----ကောင်းလေစွ၊ တပည့်တော်သည် အရှင်မြတ် ကြွလာ တော်မူခြင်းကိုသာလျှင် အဖန်ဖန်အထပ်ထပ် မပြတ်တောင့်တနေပါသည်' ဟု လျှောက်ကြားပြီးသကာလ- နှစ်ဘက်သောလက်တို့ဖြင့် ခြေတို့ကို ပွတ်သပ်ပူဇော် ကော်ရော် ရှိခိုးပြီးလျှင် သင့်တင့်လျောက်ပတ်သောအရပ်၌ ရပ်တည်၍ နေဘိသည်" ဟု ကဲ့ရဲ့ ရှုတ်ချ ဖရိုဖရဲ ပြောဆိုကြကုန်၏။

ဓမ္မပဒဝတ္ထု၊ တတိယတွဲ။
နှာ-၉၊ အရှင် ဝန္ဒိမာ။

### - အကြံ ဖြစ်ဟန် ပြောကြားပုံ -

### - ပုံစံ -

အရှင်သာရိပုတ္တရာသည် မြတ်စွာဘုရားကို "အရှင်ဘုရား- ဤအရပ်၌ ဆိတ်ငြိမ်ရာအရပ်သို့ကပ်၍ တစ်ယောက်တည်းတည်း ကိန်းစက်သော တပည့်တော်၏ 'အဘယ်သို့သော ဘုရားရှင်တို့၏ သာသနာသည် ကြာမြင့်စွာ မတည်သနည်း၊ အဘယ်သို့သော ဘုရားရှင်တို့၏ သာသနာသည် ကြာမြင့်စွာ တည်သနည်း' ဟူသော စိတ်အကြံသည် ဖြစ်ပါသည်ဘုရား၊ အရှင်ဘုရား-အဘယ်သော ဘုရားရှင်တို့၏ သာသနာသည် ကြာမြင့်စွာ မတည်ပါသနည်း၊ အဘယ်သို့သော ဘုရားရှင်တို့၏ သာသနာသည် ကြာမြင့်စွာ တည်ပါသနည်း" ဟူသော စကားကိုလျှောက်ကြား၏။

ပါရာဇိကဏ္ဍ၊ ပါ၊ နှာ-၈။

### မီးပြကြီးနှင့် မီးပြကလေး အကြောင်း ပြီးပြီ။

-----------

## ၁၀။ လက်သည်းကွင်း အကြောင်း အကျယ်

**(နိယံ)** ရှေ့ပုဒ်နှင့်မူ၊ သဘောတူ၊ ထည့်ယူ'လက်သည်းကွင်း'။

ဤနိယံအရ ရှေ့ပုဒ်၏ အနက်, အဓိပ္ပာယ်တို့သည် တိမ်ငုပ်လျက် မထင်မရှား ဖြစ်၍နေခဲ့လျှင် ထိုပုဒ်၏ အနက်, အဓိပ္ပါယ် ပေါ်လွင်ထင်ရှားစေရန် အနက်တူ, အဓိပ္ပါယ်တူဖြစ်သော နောက်ပုဒ်ဖြင့် ဖော်ပြရေးသားရသည်။

[အမှာစကား။ ။ဤ ( )လက်သည်းကွင်း အတွင်း၌ပါသော စကားများကို ထည့်သွင်း ဖတ်ရွတ်ရန်မဟုတ်၊ တွဲဖက်ပုဒ်နှင့် အနက်တူ, အဓိပ္ပါယ်တူဟု သိရှိရန်မျှသာ ဖြစ်သည်၊ ကွင်းစ၏ အတွင်းတွင် ( = ) ဟု ညီမျှခြင်း လက္ခဏာပြ၍ ရေးသားရသည်၊ သို့သော်လည်း အချို့သော စာတို့၌ ညီမျှခြင်းလက္ခဏာ မပြဘဲ ရေးသားထားသည် ကိုလည်း တွေ့ရတက်သည်။]

### - ပုံစံ -

- တော်လှန်ရေးကောင်စီ ဥက္ကဋ္ဌကြီး (ယခု သမ္မတကြီး ဦးနေဝင်း)

မြန်မာစာ အဘိဓာန် အကျဉ်းချုပ်၊ ပထမ၊
စာမျက်နှာ-ဆ၊ ၂။

- 'နွမ်း' နှင့် 'လွမ်း' စသည်တို့ကဲ့သို့ မသတ်(မ်)သံ၊ နသတ်(န်) သံ ၂-မျိုး ထွက်လျှင် ၂-မျိုးစလုံးကို ပြသည်။
မြန်မာစာ အဘိဓာန အကျဉ်းချုပ်၊ ပထမ၊
စာမျက်နှာ-ဆ။

- တုရင် (အပြောက် အမွမ်း)
မြန်မာစာလုံးပေါင်းသတ်ပုံ၊ နှာ-၁၅၆။

- နတ္တာ (နမာမိ) ရှိခိုးပါ၏။
တွင်းသင်း၊ မြန်မာ၊ သစ်၊ နှာ-၂။

- ရသေ့ ရဟန်းပြု၍ များမကြာ ဈာန်အဘိညာဉ် (သမာပတ်)ကို ရတော်မူ၏။
တွင်းသင်း၊ မြန်မာ၊ သစ်၊ နှာ-၁၇။

**(နိယံ)** သင်္ချာနှင့်စာ၊ တူပြရာ၊ သချာ် 'လက်သည်းကွင်း'။

ဤနိယံအရ သင်္ချာနှင့်စာကိုသဘောတူ နှစ်ခါထပ်ပြရာ၌ သင်္ချာကိုရှေ့မှ 'လက်သည်းကွင်း' ဖြင့်ဖော်ပြရသည်။

**ပုံစံ**

အာနန္ဒာ- ငါမရှိသည့်နောက် သာသနာတော်(၁၀၁) တစ်ရာ့တစ်နှစ်-ရောက်သောအခါ--------
တွင်းသင်း၊ မြန်မာ၊ သစ်၊ နှာ-၁၄။

**(နိယံ)** ကိန်းဂဏန်းမှာ၊ သင်္ချာနှင့် စာနှစ်ဖြာရေးလျှင်၊ စာတွင်'လက်သည်းကွင်း'။

ဤနိယံအရ ကိန်းဂဏန်းအရေတွက်ကို သင်္ချာနှင့်စာ နှစ်ဖြာရေးပြလျှင် စာကို'လက်သည်းကွင်း' ဖော်ပြရသည်။

**ပုံစံ**

- ၄၅၀၀ /(ကျပ်လေးထောင်ငါးရာတိတိ)
- ၄၆၇/(လေးရာ့ ခြောက်ဆယ့်ခုနစ်ကျပ်တိတိ)

**(နိယံ)** ပိုဒ်ခွဲက-ခ၊ ရေးသုံးက၊ ထည့်ကြ 'လက်သည်းကွင်း'။

ဤနိယံအရ စည်းကမ်း/ စည်းမျဉ်း/ ဥပဒေစသည်တို့ကို ရေးသားရာတွင် မူရင်းအပိုဒ်မှ အပိုဒ်ခွဲ၊ သို့မဟုတ် မူရင်းပုဒ်မမှ ပုဒ်မခွဲထည့်သွင်းလိုလျှင် ထိုအပိုဒ်ခွဲ/ ပုဒ်မခွဲ က-ခအစဉ်ကို 'လက်သည်းကွင်း' ဖြင့်ဖော်ပြရသည်။

**ပုံစံ**

ရ။ ဆန္ဒပေးပိုင်ခွင့်ရှိသော ရဟန်းတော်များသည် အောက်ဖော်ပြပါ ဂုဏ်အင်္ဂါ အရည်ချင်းများနှင့်ပြည့်စုံရမည်။

(က) ပကတက် ရဟန်းတော် ဖြစ်စေရမည်။

(ခ) လွန်ခဲ့သောနှစ်က သက်ဆိုင်ရာ မြို့နယ်အတွင်း ဝါဆို၍ ရွေးချယ်တင်မြှောက်ပွဲမတိုင်မီ ၆-လအတွင်း အမြဲနေထိုင်သော ရဟန်းတော်ဖြစ်ရမည်။

(ဂ) သက်ဆိုင်ရာမြို့နယ် သံဃာစာရင်း၌ပါဝင်သော ရဟန်းတော်ဖြစ်ရမည်။

လုပ်ထုံး လုပ်နည်းများ
အခန်း-၃၊ အပိုဒ်-၇။

[အမှာစာ။ ။ဤအထက်ဖော်ပြပါ (က၊ခ၊ဂ) အမှက်ပြ အပိုဒ်တို့သည် ၇-နံပါတ်အပိုဒ်၏ ပိုဒ်ခွဲများ ဟု သိပါလေ။]

**(နိယံ)** ဇယားကွက်သား၊ အမှတ်များ၊ ရေးသား 'လက်သည်းကွင်း' ။

ဤနိယံအရ ဇယားကွက်များကို ချထား၍ဇယားကွက်အရေတွက် အမှတ်အသားဖြစ်သော ဂဏန်းကို 'လက်သည်းကွင်း' ဖြင့် ဖော်ပြရမည်။

**ပုံစံ**

| အမှတ်စဉ် | နေထိုင်ရာကျောင်းတိုက်တိုက်အမည်နှင့်လိပ်စာ | ရောက်ရှိသည့်နေ့စွဲလက်မှတ် | ကျောင်းထိုင်ဆရာတော် |
|---|---|---|---|
| (၁) | (၂) | (၃) | (၄) |

သာသနာ၀င်မှတ်တမ်း၊ နှာ-၂၆။

**လက်သည်းကွင်းအကြောင်းပြီးပြီ။**

--------

## ၁၁။ တွန့်ကွင်းအကြောင်းအကျယ်

**(နိယံ)** မြန်မာစာထုံး၊ တွန့်ကွင်းသုံး၊ လုံးလုံး မရှိပါ။

[အမှာစကား။ ။ဤစာစောင် မာတိကာဇယား၌ (  )ကို လက်သည်းကွင်း,ဝိုက်ကွင်း/ ကွင်းငယ်၊{ }ကို တွန့်ကွင်း/ကွင်းလတ်၊[ ]ကို ထောင့်ကွင်း/ ကွင်းကြီးခေါ်ကြောင်း ပြဆိုခဲ့ပြီးဖြစ်သည်၊ ထိုကွင်း သုံးကွင်းကို သင်္ချာပညာရပ်တွင်သာ အပြည့်အစုံသုံးစွဲလေ့ရှိသည်၊ မြန်မာတို့တွင် လက်သည်းကွင်းနှင့်ထောင့်ကွင်းတို့ကိုသာ သုံးစွဲလေ့ရှိသည်၊ တွန့်ကွင်းကိုကား သုံးစွဲလေ့ မရှိချေ၊ သို့အတွက် တွန့်ကွင်းကို အကျယ်ပြဆိုခြင်း မပြုတော့ပြီ။]

**တွန့်ကွင်းအကြောင်းပြီးပြီ။**

------------

## ၁၂။ ထောက်ကွင်း အကြောင်း အကျယ်

**(နိယံ)** ရည်ညွှန်း, မှတ်ချက်၊ ရှင်းလင်းချက်နှင့်၊ ခြွင်းချက်တို့မှာ၊ 'ထောင့်ကွင်းသာ'။

ဤနိယံအရ အထူးသဖြင့် ပြောဆိုမှာကြားလိုသောအရာဌာနမျိုး၌ 'ထောင့်ကွင်း'ကို သုံးစွဲဖော်ပြသည်၊ ယခင်က ပြဆိုခဲ့သော ပုဒ်မနှစ်ချက်ချရသော "မှတ်, ညွှန်း, ကြောင်းရာ၊ အမှာ, ခြွင်းချက်၊ ပြလျက်နောက်တွင်၊ ပုဒ်မပင်၊ အစဉ်နှစ်ချက်တည်း" ဟူသောနိယံဖြင့် ပြအပ်သော စကားရပ်မှ'ကြောင်းရာ' တစ်ခုကိုပယ်၍ ကျန်သမျှ အလုံးစုံတို့အား ထောင့်ကွင်းဖြင့် ရေးသားဖော်ပြရသည်။

အချို့သောစာများ၌ဤနေရာမျိုး၌ 'ထောင့်ကွင်း မရှိကြချေ၊ ပါရှိမှသာ သင့်လျော်ပေမည်။

'ရည်ညွှန်းချက်' ဟု ထိပ်စီးစာ မပါသော်လည်းကောင်း၊ ပါရှိခဲ့သော်လည်းကောင်း ရည်ညွှန်းပြောကြားသော အချက်မှန်သမျှ 'ထောင့်ကွင်း' ဖြင့်သာ အထူးပြုကာ ရေးသားဖော်ပြရသည်။

**ရည်ညွှန်းချက်ဟု-ပါသော ပုံစံ**

[ ရည်ညွှန်းချက်။ ။ နိုင်ငံတော် သံဃမဟာနာယက အဖွဲ့၏ ၂၂၊ ၈၊ ၈၁ နေ့စွဲပါ ညွှန်ကြားလွှာ အမှတ်(၂၉) အပိုဒ် (၁)။ ]

ညွှန်ကြားလွှာ အမှတ်-၃၂။

**ရည်ညွှန်းချက်ဟု မပါသော ပုံစံ**

[လုပ်ထုံးလုပ်နည်းများ အပိုဒ်၊ ၄၂]

သံဃဝိနိစ္ဆယအဖွဲ့၊ ဖွဲ့စည်းဆောင်ရွက်ချက်များ၊

စာမျက်နှာ- ၄၁

[၁၉၇၉- ခုနှစ်၊ အက်ဥပဒေ အမှတ်-၆၅]
[၁၉၅၅ - ခုနှစ်၊ အက်ဥပဒေ အမှတ်-၂၈]
ဝိနည်း ဓမ္မကံ ဥပဒေနှင့် လုပ်ထုံး
လုပ်နည်း ရှင်းလင်းချက်၊ နှာ-၂၅။

[ အမှာစကား။ ။ ဖော်ပြခဲ့ပြီးသော ပုံစံ သုံးခုတို့တွင် 'ရည်ညွှန်းချက်' ဟု ခေါင်းစီး, ထိပ်စီးစာ မပါရှိသော်လည်း လုပ်ထုံးလုပ်နည်းများ စသည်ကို ညွှန်းဆိုထားသာကြောင့် 'ရည်ညွှန်းချက်' ဟူ၍ပင် မှတ်ယူပါလေ။]

**မှတ်ချက် ပုံစံ**

[မှတ်ချက်။ ။လူ ပုဂ္ဂိုလ် ဖြစ်ပါက လုပ်ထုံးလုပ်နည်း အပိုဒ်၊ ၃၆-အရ လိုက်နာဆောင်ရွက်စေပြီးနောက် ထွက်ဆိုစေရမည်။]

လုပ်ထုံးလုပ်နည်းများ၊ နှာ-၄၇။

**ရှင်းလင်းချက် ပုံစံ**

[ ရှင်းလင်းချက်။ ။ ဝိနိစ္ဆယခုံ ဖွဲ့ရာ၌ ဂိုဏ်းတူ ဖြစ်လျှင် ခုံဝိနည်းဓိုရ် ဆရာတော်နှင့် ကြားခုံ ဝိနည်းဓိုရ်ဆရာတော် အားလုံးကို ဂိုဏ်းဝင်ထဲမှ ရွေးပါ။]

ဝိနည်းဓိုရ်သင်တန်း လုပ်ထုံး လုပ်နည်းများ
ရှင်းလင်းချက်၊ နှာ-၃၉။

**ခြွင်းချက် ပုံစံ**

[ခြွင်းချက်။ ။စောဒက စုဒိတက ၂-ဦးတို့သည် မိမိတို့ အမိကရုဏ်း-မှုခင်းကို သက်ဆိုင်ရာ မြို့နယ် ဝိနိစ္ဆယဌာန၏ ဆုံးဖြတ်ချက်ခံယူရန် သဘောတူလျှင် စောဒကသည် သဘောတူကြောင်း စာကိုယူ၍ ထိုမြို့နယ် ဝိနိစ္ဆယဌာနသို့ တင်သွင်း၍ တရားစွဲဆိုနိုင်သည်။]

ဝိနည်းဓိုရ်သင်တန်း ဥပဒေနှင့် လုပ်ထုံး။
လုပ်နည်းများရှင်းလင်းချက်၊ နှာ-၃၇။

**(နိယံ)** သတိပြုစရာ၊ အမှာစကား၊ ရေးစီသား၊ ထည့်ငြား'ထောင့်ကွင်း' သာ။

ဤနိယံအရ သတိပြုဖွယ်ရာစကား, အမှာစကားတို့ကို ခွဲခြားရေးလိုလျှင် 'ထောင်းကွင်း' ဖြင့်သာ ဖော်ပြ ရေးသားရသည်။

**-သတိပြု ပုံစံ -**

[သတိပြု။ ။ဤဆေးစားပြီးနောက် တစ်နာရီအတွင်း အချဉ်သီးကို စားခြင်းမှ ရှောင်ကြဉ်ပါ၊ ဆေးကို ကြေညက်စွာ ဝါး၍ စားပါ။]

**တစ်နည်း သတိပြု ပုံစံ**

[သတိပြု။ ။ နိဗ္ဗာန်လိုလား အမျိုးကောင်းသားတို့သည် သမုတိသစ္စာကိုလည်း မပျက်စေ၊ မချွတ်ယွင်းစေဘဲ အချိုးတည့်စေရမည်၊ ပရမတ္ထသစ္စာကိုလည်း အမှန်သိ, အမှန်မြင်အောင် ဆင်ခြင်တတ်ရမည်၊ ဤအချက်နှစ်ခု တို့နှင့် ပြည့်စုံမှု ရှိစေရန် အမြဲသတိပြုရမည်။]

**- အမှာစကား ပုံစံ -**

[အမှာစကားချပ်။ ။ မာတုဂါမတို့ မည်သည် လင်ဖြစ်သူ အချစ်ဝင်သည်ကို သိလျှင် စကြာမင်းကိုစင်လျက် ခြေရင်းအလုပ်အကျွေး ကျွန်မျှခန့်သာ ထင်မြဲတည်း၊ ထို့ကြောင့် ပညာရှိသော ယောကျ်ားတို့သည် မိမိမယား၌ သော်လည်း မချစ်ကျွမ်းအပ် ဟူသတည်း။]

တွင်းသင်း၊ မြန်မာ၊ သစ်၊ နှာ-၃၄၃။

**ထောင့်ကွင်း အကြောင်း ပြီးပြီ၊**

* * *

## ၁၃။ တစ်ဖက်ကွင်းရှည် အကြောင်း အကျယ်

**(နိယံ)** အရေးကြီးလာ၊ကြောင်းခြင်းရာကို၊ ပေါင်းခါ စုကြ၊ 'တစ်ဖက်ကွင်းရှည်' ကိုပြ။

ဤနိယံအရ အရေးကြီးသော အကြောင်းအရာတို့ကို ပြဖွယ်ကိစ္စ တစ်ခုတည်းဖြင့် ပြလိုလျှင် အင်ပေါ့တင့်(န်) ခေါ် "တစ်ဖက် ကွင်းရှည်" နှင့် ရေးသားပြဆိုရသည်။

**ပုံစံ**

၁။ စောဒက မလာနိုင်ခဲ့သော် ဝိနည်းခိုရ်
၂။ စုဒိတက မလာနိုင်ခဲ့သော် ဆရာတော်
၃။ ယင်းတို့သက်သေ မလာနိုင်ခဲ့သော် (၂)ပါး ကြွပြီးစစ်ဆေးပါ။

အခြားမြို့နယ်က စောဒက, စုဒိတက, သက်သေတို့အထက် ဖော်ပြပါ အကြောင်းကြောင့် မလာနိုင်ခဲ့သော်-

၁။ သက်ဆိုင်ရာ ပြည်နယ်ကောင်စီ အဖွဲ့များသို့
၂။ သက်ဆိုင်ရာ တိုင်းကောင်စီ အကြောင်း
၃။ သက်ဆိုင်ရာ မြို့နယ်ပြည်သူ့ကောင်စီ ကြားပါ။

ဝိနည်းခိုရ်သင်တန်း၊ သင်တန်းသားများ
အမေးနှင့်ဖြေကြားချက်များ။ နှာ-၂၃

**(နိယံ)** စကားပေါ်ရာ၊ များတုံပါလည်း၊ ဓိပ္ပါ,အတ္ထ၊ တစ်ခုရ၊ 'တစ်ဖက်ကွင်းရှည်' ကိုပြ။

ဤနိယံအရ ပေါရာဏ စကားလုံးတွေ များစွာပင် ရှိသော်လည်းအဓိပ္ပါယ်,အနက်တို့ကို ကောက်ယူသော် တစ်ခုတည်းသာရနေပြေးအံ့၊ 'တစ်ဖက်ကွင်းရှည်' ဖြင့် ပြသရေးသားရသည်။

**-ပုံစံ-**

- သည်မျိုး
  သည်ရန်
  သည်ပင် ပေါရာဏ-မယား
  ဆွေသည်
  သည်ရင်း
  သည်လျာ

### ကွင်းသုံးခုတို့၏ အထူးသိဖွယ်

မြန်မာစာပေ အရေးအသားတွင် သုံးစွဲကြသော-

(၁) လက်သည်းကွင်း အမှတ်လက္ခဏာကို အကြောင်းထူးခြားချက် မရှိသော ရိုးရိုးအနက် အဓိပ္ပါယ်တို့၌သာ သုံးစွဲကြသည်။

(၂) ထောင့်ကွင်း အမှတ်လက္ခဏာကို ထူးခြားသောအကြောင်းရှိမှသာ သုံးစွဲကြသည်။

(၃) တစ်ဖက်ကွင်းရှည် အမှတ်လက္ခဏာကို အရေးကြီးသော အကြောင်းရှိမှသာ သုံးစွဲကြသည်။

ကွင်းသုံးမျိုးတို့၏ ထူးခြားချက်ကို ဤသို့ သိပါလေ။

**တစ်ဖက်ကွင်းရှည် အကြာင်းပြီးပြီ။**

× × ×

## ၁၄။ ခရေပွင့် အကြောင်း အကျယ်

**(နိယံ)** အောက်ခြေမှတ်စု၊ ညွှန်ပြမှု၊ ရေးပြု 'ခရေပွင့်'။

ဤနိယံအရ ကျမ်းပြုဆရာ, စာရေးဆရာတို့သည် မိမိရေးသားသော ကျမ်းစာတို့တွင် သက်သေသာဓက ပြရန် ရှိသော်လည်း အကျယ်မပြဆိုတော့ဘဲ ခရေပွင့်ဖြင့်ပြခါ မှာကြားလေ့ရှိသည်။ အထောက်အထားအကျယ်ကို အောက်တွင်ဖော်ပြပါ ကျမ်းစာစောင်တို့တွင် ကြည့်ပါဟု အောက်ခြေမှတ်စု ညွှန်းပြရာတို့၌ လွန်ခဲ့သော ခေတ်က သုံးစွဲလေ့

ယခုခေတ်မူကား-၁-၂-စသည် ဂဏန်းထိုးပြ၍ မှာကြားညွှန်ပြကြသည်၊ ခရေပွင့်ကို သုံးစွဲလေ့ မရှိကြတော့ပြီ။

**ခရေပွင့်အကြောင်း ပြီးပြီ၊**

-----------

## ၁၅၊ မျဉ်းစောင်း အကြောင်း အကျယ်

**(နိယံ)** သို့မဟုတ်ကို၊ ခြိုးပြဆို၊ သုံးလို 'မျဉ်းစောင်း' သာ။

ဤနိယံအရ 'သို့မဟုတ်' ဟူသောစာပိုဒ်ကို အကျဉ်းခြုံးပြလိုသောအခါ 'မျဉ်းစောင်း'ကို သုံးစွဲရေးသားရသည်။

**-ပုံစံ-**

အကြောင်းအရာ။ ။ရပ်ကွက်/ ကျေးရွာ အုပ်စု သံဃဝန်ဆောင်များ၊ သံဃနာယကအဖွဲ့၊ မြို့နယ်သံဃဝန်ဆောင်များ၊ မြို့နယ်သံဃနာယကအဖွဲ့၊ ပြည်နယ်/တိုင်းသံဃဝန်ဆောင်များ၊ ပြည်နယ်/တိုင်း သံဃနာယကအဖွဲ့များ၊ ရွေးချယ်ဖွဲ့စည်းရန်ရွေးချယ်ဖွဲ့စည်းမှုကြီးကြပ်ရေးအဖွဲ့များကို ဖွဲ့စည်းခြင်းနှင့် ပတ်သတ်၍ ညွှန်ကြားလွှာ အမှတ်(၁) ပါဘုရား။

ညွှန်ကြားလွှာအမှတ်-၁။

**-တစ်နည်း ပုံစံ-**

အကြောင်းအရာ။ ။ရဟန်းတော်များနေထိုင်ရာ ကျောင်း၊ ကျောင်းတိုက်များမှ အမြဲနေ လူပုဂ္ဂိုလ်များ ဖယ်ပေးရန်ကိစ္စနှင့်ပတ်သတ်၍ ညွှန်ကြားခြင်း။

ညွှန်ကြားလွှာအမှတ်-၁၄။

**မျဉ်းစောင်းအကြောင်း ပြီးပြီ၊**

----------

## ၁၆၊ အမေးပုစ္ဆာ အကြောင်းအကျယ်

**(နိယံ)** အမေးစာသား၊ ရေးစီငြား၊ ပြထား 'အမေးလက္ခဏာ'တည်။

ဤနိယံအရ မိမိရေးသားသော စာစောင်များကျမ်းများ၌ အမေးအဖြေပြုလုပ်လိုလျှင် အမေးစကား၏ အဆုံးတွင် 'ကွက်ရှင်းမာ့ခ်' (?)အမေးလက္ခဏာကို ထည့်သွင်းရေးသားရသည်။

ဤအမေးလက္ခဏာကို ရှေးအခါကသုံးစွဲ၍ မရှိကြသော်လည်း ယခုခေတ်တွင် တစ်စတစ်စနှင့် ပါဠိ, မြန်မာ နှစ်ဘာသာလုံး၌ သုံးစွဲမှု များလာခဲ့ကြပေပြီ။

**-ပါဠိ,မြန်မာ ပုံစံများ-**

- တေန ကွတ္တော? (ပါဠိ)
- ထိုအက္ခရာ ဟူသော အမည်ကို မှည့်သဖြင့် အဘယ်အကျိုး ရှိသနည်း? (မြန်မာ)
- တံ ယထာ? (ပါဠိ)
- ထိုသရ ရှစ်လုံးတို့ဟူသည် အဘယ်သည်တို့နည်း? (မြန်မာ)
- ကွစိတိ တသ္မာ? (ပါဠိ)
- ကွစိဟူသော ဤသဒ္ဒါကို အဘယ့်ကြောင့် ဆိုပါသနည်း? (မြန်မာ)
- ကုဟိံ ဂစ္ဆသိ?(ပါဠိ)
- သင် အဘယ်အရပ်သို့ သွားသနည်း? (မြန်မာ)

**အမေးပုစ္ဆာအကြောင်းပြီးပြီ၊**

---------

## ၁၇၊ အာမေဍိတ်အကြောင်းအကျယ်

**(နိယံ)** ကြောက်ခြင်းစသား၊ အကြောင်းများကြောင့်၊ စကားပြောဟန်၊ ရေးလိုပြန်၊ ထားရန် 'အာမေဍိတ်' လက္ခဏာတည်။

ဤနိယံအရ ကြောက်ခြင်းစသော အကြောင်းတို့ကြောင့် ဖြစ်ပေါ်လာသော စကားပြောဟန်ကို ရေးသားလိုသောအခါ 'အလစ်ဆိုင်း' (ခေါ်) ! အာမေဍိတ် လက္ခဏာကို ဖော်ပြရေးသားရသည်။

ဤအာမေဍိတ် ဟူသည်မှာ-

- ဘယေ, ကောဓေ, ပသံသာယံ၊
- တုယိတေ, ကောတုဟလ,စ္ဆရေ ။
- ဟာသေ, သောကေ, ပသာဒေစ၊
- ကရေ အာမေဍိတံဗုဓော။ ။

ဟူသော ဂါထာအရ ကြောက်ခြင်းစသော ကိုးပါးသောအကြောင်းတို့ကြောင့် စိတ်လှုပ်ရှားမှု တစ်ခုခုနှင့်ကြုံတွေ့သည့်အခါ ရုတ်တရက်နှုတ်မှထွက်ပေါ် ပြောဆိုလာမှုကိုဆိုသည်။

**-ပုံစံ-**

ဤအာမေဍိတ် လက္ခဏာကို မြန်မာစာပေတို့၌လည်းကောင်း,ပါဠိဘာသာစာပေတို့၌လည်းကောင်း ရှေးခေတ်, ယခုခေတ် နှစ်မျိုးလုံးတို့၌ သုံးစွဲမှု နည်းပါးနေကြပေသေးသည်။

**-ပါဠိ မြန်မာ ပုံစံများ-**

၁။ ဘယေ -ကြောက်သောအခါ၌ -
- သပ္ပေါ! သပ္ပေါ! (ပါဠိ)
- မြွေကြီး! မြွေကြီး! (ပါဠိ)
- စောရော! စောရော! (ပါဠိ)
- သူခိုး! သူခိုး! (မြန်မာ)

၂။ ကောဓေ= အမျက်ထွက်သောအခါ၌-
- ဝိဇ္ဈ! ဝိဇ္ဈ! (ပါဠိ)
- ထိုးခုတ်လော့! ထိုးခုတ်လော့! (မြန်မာ)

၃။ ပသံသာယံ= ချီးမွမ်းသောအခါ၌-
- သာဓု! သာဓု! (ပါဠိ)
- ကောင်းစွ! ကောင်းစွ! (မြန်မာ)

၄။ တုရိတေ=အဆောတလျှင်ပြုသောအခါ၌-
- ဂစ္ဆ! ဂစ္ဆ! (ပါဠိ)
- သွားလော့! သွားလော့! (မြန်မာ)
  (မြန်မြန်သွား! မြန်မြန်သွား!)

၅။ ကောတုဟလေ=အသစ်အဆန်းကိုတွေ့မြန်သောအခါ၌-
- (အုပ်အုပ်ကျပ်ကျပ် ဖြစ်သောအခါ)
- အာဂစ္ဆ! အာဂစ္ဆ! (ပါဠိ)
- လာလော့! လာလော့! (မြန်မာ)
  (မြန်မြန်လာ! မြန်မြန်လာ!)

၆။ အစ္ဆရေ= အံ့ဩသောအခါ၌-
- အဟောဗုဒ္ဓေါ! အဟာဗုဒ္ဓေါ! (ပါဠိ)
- ရှင်တော်မြတ်ဘုရားသည် ဩော်-အံ့ဩဖွယ်ကောင်းပေစွ!
  ရှင်တော်မြတ်ဘုရားသည် ဩော်-အံ့ဩဖွယ်ကောင်းပေစွ! (မြန်မာ)

၇။ ဟာသေ=ရွှင်လန်းသောအခါ၌-
- အဘိကမထ ဝါသေဌာ!
- အဘိကမထ ဝါသေဌာ! (ပါဠိ)

- ဝါသိဋ္ဌအနွယ်တို့ လျင်စွာ သွားကြကုန်လော့!
- ဝါသိဋ္ဌအနွယ်တို့ လျင်စွာ သွားကြကုန်လော့! (မြန်မာ)

(ဟီဟီ! ဟီဟီ! ဟားဟား! ဟားဟား!)

၈။ သောကေ=စိုးရိမ်သောအခါ၌-

- ကဟံ ဧကပုတ္တက !

ကဟံ ဧကပုတ္တက ! (ပါဠိ)

- တစ်ယောက်တည်းဖြစ်၍ ချစ်လှစွာသော အို- သား အဘယ်မှာနည်း !

တစ်ယောက်တည်းဖြစ်၍ ချစ်လှစွာသော အို- သား အဘယ်မှာနည်း !

၉။ ပိသာဒေ= ကြည်ညိုသောအခါ၌-

- အဘိက္ကန္တံ ဘော ဂေါတမ !

အဘိက္ကန္တံ ဘော ဂေါတမ ! (ပါဠိ)

- အို-အရှင်ဂေါတမ အလွန်နှစ်လိုဖွယ် ကောင်းပေစွ !

အို-အရှင်ဂေါတမ အလွန်နှစ်လိုဖွယ် ကောင်းပေစွ !

(အစိန္တေယျ ! အစိန္တေယျ ! အစိန္တေယျ ! )

**အာမေဍိတ် အကြောင်း ပြီးပြီ၊**

× × ×

## ၁၈၊ ချန်ကွက်အကြောင်း အကျယ်

**(နိယံ)** တမင်ချန်လျက်၊ အညွှန်းဆက်၊ 'ချန်ကွက်' ကိုသာ၊ သုံးလေတည်း။

ဤနိယံအရ ဖိတ်စာ, ပင့်လျှောက်စာ, ဝိနိစ္ဆယ ဖွဲ့စည်းပုံစာစသည့် တစ်ဆက်တည်း ဆက်လက် ရေးသားခြင်း မပြုရဘဲ နောက်မှ လိုအပ်သလို ဖြည့်စွက် ရေးနိုင်ရန် ခြွင်းချက်ထားရသော စာများကို ရေးသားရလျှင် ခြွင်းချန် ထားရမည့်-နောက်မှ ဖြည့်စွက်ရေးရမည့်နေရာတွင်(-------) ဟူသော 'လီဒယ်' ခေါ် 'ချန်ကွက်' ကို ဖော်ပြ ရေး သားရသည်။

**ဖိတ်စာ ပုံစံ**

အမည် ----------------

ဂုဏ်ထူး ----------------

နေရပ်လိပ်စာ----------------

----------------

**ပင့်စာ ပုံစံ**

ဘွဲ့တော် --------------

ကျောင်း ----------------

ရွာ --------------------

မြို့နယ် -----------------

ပြည်နယ်/တိုင်း ---------

**ဝိနိစ္ဆာယဖွဲ့စည်းပုံ ပုံစံ(၄)**

မြို့နယ် သံဃဝိနိစ္ဆယအဖွဲ့ အမှတ်(    )ကို ဖွဲ့စည်းခြင်း အမိန့်
[လုပ်ထုံး လုပ်နည်းများ အပိုဒ် (၂၄-က)]

၁။ ------မြို့နယ် သံဃနာယကအဖွဲ့သည်----- ပြည်နယ်/တိုင်း-----မြို့နယ်--------ရပ်ကွက်/ကျေးရွာအုပ်စု-----ကျောင်း/အိမ်၌ သီတင်းသုံး/ နေထိုင်သော စောဒက-------နှင့်-------- ပြည်နယ်/တိုင်း-----မြို့နယ်------ရပ်ကွက်/ကျေးရွာအုပ်စု-------- ကျောင်း/အိမ်၌ သီတင်းသုံးနေထိုင်သော စုဒိတက---------တို့၏-------၌ ဖြစ်ပွားသော ဝိဝါဒ/အနုဝါဒ အဓိကရိုဏ်း မှုခင်းကို ဝိနည်းတရားတော်နှင့်အညီ စစ်ဆေးဆုံးဖြတ်ရန် ဖော်ပြလတ္တံ့ပါ ဝိနည်းဓိုရ် ဆရာတော်ကြီးများပါဝင်သော မြို့နယ်သံဃဝိနိစ္ဆယအဖွဲ့အမှတ်(     )ကို ဖွဲ့စည်းလိုက်သည်။

| အမှတ်စဉ် | ဘွဲ့တော် | သက်တော် | သိက္ခာ | ကျောင်းတိုက် |
|---|---|---|---|---|
| ၁။ | ------ | ---- | ---- | ----------- |
| ၂။ | ------ | ---- | ---- | ----------- |
| ၃။ | ------ | ---- | ---- | ----------- |
| ၄။ | ------ | ---- | ---- | ----------- |
| ၅။ | ------ | ---- | ---- | ----------- |
| (အရန် ဝိနည်းဓိုရ်) | | | | |
| ၆။ | ------ | ---- | ---- | ----------- |
| ၇။ | ------ | ---- | ---- | ----------- |

ဖော်ပြပါ သံဃဝိနိစ္ဆယအဖွဲ့သည် သင့်လျော်ရာ တစ်ပါးပါးကို သဘာပတိအဖြစ် တင်မြှောက်၍ ဆောင်ရွက်တော်မူကြရန် ဖြစ်ပါသည်။

လက်မှတ် ---- ----
ဘွဲ့တော် ----- ----
ဥက္ကဋ္ဌ ဆရာတော်
မြို့နယ် သံဃနာယကအဖွဲ့

စာအမှတ်၊ ------
နေ့စွဲ၊ ---------
ဖြန့်ဝေခြင်း-

- သံဃဝိနိစ္ဆယ အဖွဲ့ဝင် ဆရာတော်အားလုံး။
- ဥက္ကဋ္ဌ၊----မြို့နယ်ပြည်သူ့ကောင်စီအလုပ်အမှုဆောင်။
- မြို့နယ်သာသနာရေး။

**ချန်ကွက် အကြောင်း ပြီးပြီ၊**

× × ×

## ၁၉၊ မြုပ်ကွက် အကြောင်း အကျယ်

**(နိယံ)** ကြွင်းကျန် စာမှတ်၊ နည်းတုံလတ်၊ ချအပ် 'မြုပ်ကွက်' တည်း။

ဤနိယံအရ မိမိရေးသားသော စာတွင်း သာဓက-ပါဠိစာမျိုး, မြန်မာစာမျိုးတို့ကို ပြဆိုရာ၌ ကျယ်ဝန်းသွားမည်စိုး၍ စာကို အနည်းငယ် ချန်ထားခဲ့ရကား စာအနည်းငယ် ကျန်ရစ်ခဲ့သည်၌လည်းကောင်း, စာတစ်မျိုး

တည်းကို အကြိမ်များစွာ ထပ်ထပ်ခါခါ ရေးသားရမည်ဖြစ်၍ ကျမ်းလေးမည်စိုးသဖြင့် အနည်းငယ်ချန်ထားရကား စာအနည်းငယ် ကျန်ရစ်ခဲ့သည်၌လည်းကောင်း 'ဒေါ့တ်' ခေါ် 'မြှုပ်ကွက်' ကို ရေးသားဖော်ပြကြသည်။

**မြှုပ်ကွက်အကြောင်း ပြီးပြီ။**

× × ×

## ၂၀။ မြှုပ်ကွက်များ အကြောင်း အကျယ်

**(နိယံ)** ကြွင်းကျန် စာမှတ်၊ များတုံလတ်၊ ချအပ် 'မြှုပ်ကွက်များ' သာတည်း။

ဤနိယံအရ အောက်၌ ဖော်ပြခဲ့သော အကြောင်းအချက်တို့ကြောင့် စာများစွာ ကျန်ရစ်ခဲ့လျှင်/ မြှုပ်ထားခဲ့ရလျှင် (-------) 'ဒေါ့တ်စ်' ခေါ် 'မြှုပ်ကွက်များ' ကို ရေးသားဖော်ပြ ကြသည်။

[မှတ်ချက်။ ။ဤ 'မြှုပ်ကွက်' နှင့် 'မြှုပ်ကွက်များ' ကိုထည့်သွင်းဖော်ပြခဲ့ခြင်းသည် မြန်မာစာ ဆရာတို့၏ အလိုကို ကြည့်၍ ဖော်ပြခဲ့သည်။

ရဟန်းတော်များ သုံးစွဲရိုးဖြစ်သော ပါဠိစာပေ, နိဿယပြန်စာပေ, မြန်မာပြန်စာပေတို့တွင် (ပ) ဟူ၍လည်းကောင်း, (လ) ဟူ၍လည်းကောင်း ပေယျာလထိုး၍သာ ပြလေ့ရှိကြသည်၊ (----) ဟူသော မြှုပ်ကွက်, (----) ဟူသော မြှုပ်ကွက်များတို့ကို သုံးစွဲလေ့ မရှိကြပေ။]

သို့အတွက် 'မြှုပ်ကွက်' နှင့် 'မြှုပ်ကွက်များ' တို့၏ ပုံစံကို ထုတ်ပြခြင်း မပြုတော့ပေ။

**မြှုပ်ကွက်များ အကြောင်းပြီးပြီ။**

× × ×

## နိဂုံး

ပြည်ထောင်စု မြန်မာနိုင်ငံတော် စစ်ကိုင်းတိုင်း ဖောင်းပြင်မြို့နယ် သရောင်းရွာလျှင် ဖွားရာဇာတိ ရှိသည်ဖြစ်၍ မုံရွာမြို့ မဟာလယ်တီတိုက် ဂန္ထဝါစကကျောင်းတွင် သီတင်းသုံးနေထိုင်သော **လယ်တီ-ကေလာသ** အမည်ရသည့် ငါသည် "မူလတန်း, ပထမငယ်တန်း, ပထမလတ်တန်း, ပထမကြီးတန်း, ပထမပြန်စာမေးပွဲ အောင်ပန်းကို လှမ်းဆွတ်နိုင်ကြရန် စိတ်အားကြံရှိကြသော စာသင်ငယ်နု အခြေပြုတို့သည် မြန်မာစာဘာသာ၌ စည်းကမ်းကျန ရေးသား ဖြေဆိုနိုင်ကြပါစေ" ဟူသော ရည်ရွယ်ချက်ဖြင့် စီရင်အပ်သော 'ယတိဘေဒ' ခေါ် ဤ 'မြန်မာစာ ရေးနည်း' စာစောင်ကို ၁၃၄၇-ခုနှစ်၊ ပထမဝါဆိုလပြည့်ကျော် ၁၅- ရက် ဗုဒ္ဓဟူးနေ့တွင် နိဂုံးခါးပတ် အဆုံးသတ်သတည်း။

ဤကောင်းမှုကြောင့် ဤဘဝတွင်သော်လည်းကောင်း, ဤသာသနာတော်တွင်သော်လည်းကောင်း, တောင်းဆုပန်အပ်သော အာသဝက္ခယဉာဏ်တိုင်ပေါက် အဆုံးသို့ရောက်ရပါလို၏။ ။

**လယ်တီကေလာသ**

သာသနဓဇ ဓမ္မစရိယ (ဝိနယပါဠိပါရဂူ)

ရေးသားပြုစုသော

**ကျမ်းစာအုပ်များ**

၁၀။ ပါဠိ စာပေ ကောက်နုတ်ချက်မှ ။
ပါဠိ နှင့် နိဿယများ (ပထမပြန်သုံး) ။
၁၁။ မြန်မာစာ အဖြေစုံ (ပထမပြန်သုံး) ။
၁၂။ သုံးလူ့ရှင်ပင် ဗုဒ္ဓဝင်လင်္ကာ အဖြေ (ပထမပြန်သုံး) ။
၁၃။ ဒဠှီကမ္မ ဒီပနီ (မြန်မာပြန်) ။
၁၄။ ပဋ္ဌာနုဒ္ဒေသဒီပနီ (မြန်မာပြန်) ။
၁၅။ သန္ဓိပဒမာလာ ။
၁၆။ စာစပ်နိယံ အဖြေ ။
၁၇။ ကျောက်ကာ ရွှေဂူနီဘုရားသမိုင်း ။
၁၈။ လယ်တီ မဟာသရဏဂုံတော်ကြီး ဝတ်ရွတ်စဉ် ။
၁၉။ သဂြိုဟ် မဟာဋီကာသစ် (မြန်မာပြန်) ။
၂၀။ ညီတော်အာနန္ဒာ၏ ဘဝသံသရာတတ်လမ်း ။
၂၁။ တရားအစ သံဝေဂ ။
၂၂။ မဟာသရဏဂုံတော်ကြီး ပထမဆင့် မေးနည်းဖြေနည်း ။
၂၃။ ။ ။ ဒုတိယဆင့် ။ ။ ။
၂၄။ ။ ။ တတိယဆင့် ။ ။ ။
၂၅။ မဟာသရဏဂုံတော်ကြီးမြန်မာဋီကာ ပ-တွဲ
၂၆။ ။ ။ ဒု-တွဲ